http://www.dhammadownload.com

# နိဗ္ဗာန်တံခါးကြီးဖွင့်တော်မူပါ



အပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်
ပါမောက္ခချုပ်ဆရာတော်

## ဘဒ္ဒန္တနန္ဒမာလာဘိဝံသ

ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ ကံမြင့်ကျောင်းတိုက်တွင်
ဟောကြားတော်မူသော တရားတော်

http://www.dhammadownload.com

ဓမ္မဒါနအလှူရှင်

ဦးအုန်းကျော် + ဒေါ်ခင်မမ
သား - မောင်မြတ်မင်းထင်ကျော်၊ ရဲမင်းသွင်ကျော်
သမီး - ကြည်လဲ့ရွှန်းကျော်
အမှတ် ၁၁-၁၂၊ သီရိမင်္ဂလာလမ်းသွယ်၊ ကမာရွတ်မြို့နယ်
အုပ်ရေ - ၁၀၀၀





http://www.dhammadownload.com

ရန်ကုန်မြို့ အပြည်ပြည်ဆိုင်ရာ
ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ် ပါမောက္ခချုပ်
အပြည်ပြည်ဆိုင်ရာ အဘိဓမ္မာမဟာသိပ္ပံ ပါမောက္ခချုပ်
စစ်ကိုင်းမြို့ သီတဂူ ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ် ပါမောက္ခချုပ်
စစ်ကိုင်းမြို့ မဟာသုဘောဓာရုံကျောင်းတိုက် တိုက်အုပ်ဆရာတော်



# ဘဒ္ဒန္တနန္ဒမာလာဘိဝံသ

သာသနာလင်္ကာရသာမဏေကျော်
သ၊စ၊အ ဓမ္မာစရိယ
ပါဠိပါရဂူ M.A; Ph.D
အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ၊ အဂ္ဂမဟာပဏ္ဍိတ

http://www.dhammadownload.com

Lotus Group

From Ma Chit

# နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ

အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်
**ပါမောက္ခချုပ်ဆရာတော်**
**ဘဒ္ဒန္တနန္ဒမာလာဘိဝံသ**




ဓမ္မဝိဇ္ဇာလယ (C B S)
မှုပိုင်

သုဓောဓာရုံကျောင်းတိုက်၊ စစ်ကိုင်းမြို့ ဖုန်း - ၀၇၂ -၂၁၃၁၁

သာသနာ–၂၅၅၂၊
မြန်မာ–၁၃၇၀ ပြည့်နှစ်၊
ဝါခေါင်လ

ခရစ်–၂၀၀၈ခုနှစ်၊
ဩဂုတ်လ

http://www.dhammadownload.com

သာသနာရေးဝန်ကြီးဌာန

သာသနာရေးဦးစီးဌာန၏ ခွင့်ပြုချက်

စာအမှတ် ၁၁၉/၁ (ပုံနှိပ်) သသန- (ဝ၈) အရ

ဦးကြည်စင် (မြ-ဝ၄၆၁၅)၊

လဲ့လဲ့မွန် ပုံနှိပ်တိုက်၊

အမှတ် ၁၅၈၊ ၄၅-လမ်း (အထက်)၊

ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်က ရိုက်နှိပ်သည်။

http://www.dhammadownload.com

ရန်ကုန်မြို့ အပြည်ပြည်ဆိုင်ရာ
ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ်
ပါမောက္ခချုပ်
အပြည်ပြည်ဆိုင်ရာ အဘိဓမ္မာမဟာသိပ္ပံ
ပါမောက္ခချုပ်
စစ်ကိုင်းမြို့ သီတဂူကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်
ပါမောက္ခချုပ်
စစ်ကိုင်းမြို့ မဟာသုတောဒါရုံကျောင်းတိုက်၊
တိုက်အုပ်ဆရာတော်

# ဒေါက်တာနန္ဒမာလာဘိဝံသ

သာသနာလင်္ကာရ သာမဏေကျော်
သ၊စ၊အ ဓမ္မာစရိယ
ပါဠိပါရဂူ၊ M.A, Ph.D
အဂ္ဂမဟာပဏ္ဍိတ
အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ
၏

# ထေရုပ္ပတ္တိအကျဉ်းချုပ်

http://www.dhammadownload.com

# ပါမောက္ခချုပ်ဆရာတော် ဒေါက်တာနန္ဒမာလာဘိဝံသ ၏ ထေရုပ္ပတ္တိအကျဉ်း

**၁၃၀၁–ခုနှစ်**

တပေါင်းလပြည့်၊ ၂၂ မတ်လ ၁၉၄၀ စနေနေ့တွင် မန္တလေးတိုင်း၊ စဉ့်ကူးမြို့နယ်၊ ညောင်ပင်ရွာ၊ ခမည်းတော် ဦးစံလှ+မယ်တော်ဒေါ်ခင်တို့မှ ဖွား မြင်သည်။

**၁၃၀၅ ခုနှစ်**

၁၉၄၄ ခုနှစ် အသက် (၅) နှစ်သားအရွယ်တွင် စဉ့်ကူးမြို့နယ်၊ ညောင်ပင်ကျေးရွာ၊ ပေါ်တော်မူကျောင်း ဆရာတော် ဦးကေလာသ (ဦးလေးဘုန်းကြီး) ထံတွင် မြန်မာစာနှင့် ဗုဒ္ဓစာပေများကို စတင်သင်ကြားခဲ့သည်။

http://www.dhammadownload.com



**၁၃၀၁ ခုနှစ်**

၁၉၄၉ခုနှစ်၊ ဝါဆိုလဆန်း (၁၁)ရက်၊ အသက် (၁၀) နှစ်အရွယ်တွင် စစ်ကိုင်းတောင်ရိုး၊ ဝိပဿနာ ဂန္ဓာရုံကျောင်း၌ အဘိဓမ္မမဟာရဋ္ဌဂုရု၊ နဝမရွှေကျင် သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီးကို ဉပဇ္ဈာယ်ပြုလျက် ရှင်သာမဏေပြုခဲ့သည်။

**၁၃၁၄ ခုနှစ်**

၁၉၅၃ခုနှစ်၊ အသက် (၁၃) နှစ်တွင် အဘိဓမ္မာ စာမေးပွဲသုံးဆင့် စတင်အောင်မြင်ခဲ့သည်။

**၁၃၁၇ ခုနှစ်**

၁၉၅၆ ခုနှစ်၊ အသက်(၁၆)နှစ်တွင် အစိုးရ ဓမ္မာစရိယ တန်းကို ဂုဏ်ထူးကျမ်း(၂)ကျမ်းနှင့်တကွ အောင်မြင်၍ သာသန ဓဇ သိရီပဝရဓမ္မာစရိယဘွဲ့ ရရှိခဲ့သည်။

**၁၃၁၉ ခုနှစ်**

၁၉၅၇ ခုနှစ်တွင် သာသနာလင်္ကာရ သာမဏေကျော် ဘွဲ့ကို ရရှိခဲ့သည်။

**၁၃၂၀ ပြည့်နှစ်**

၁၉၅၈ ခုနှစ်တွင် စစ်ကိုင်းမြို့၊ မဟာသုဗောဓာရုံတိုက်ကို နောင်တော်များနှင့်အတူ တည်ထောင်ကာ ပဓာနစာချ၊ တိုက်ကြပ်အဆင့်ဆင့် တာဝန်များ ထမ်းဆောင်ခဲ့သည်။

http://www.dhammadownload.com



၁၃၂၁ ခုနှစ်

၁၉၆၀ ပြည့်နှစ်တွင် နဝမ ရွှေကျင်သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝသို့ ရောက်ရှိခဲ့သည်။ နောင်တော်ရင်း ဖြစ်သော ဘဒ္ဒန္တနာရဒထံ၌ သဒ္ဒါ၊ သင်္ဂဟ၊ ပိဋက အခြေခံစာများ၊ ပထမပြန်စာမေးပွဲဆိုင်ရာ ကျမ်းစာ များသင်ယူခဲ့ပြီး၊ ဇယမေဒနီဝါဆိုကျောင်းဆရာတော် ဘဒ္ဒန္တအဂ္ဂိယ (ရွှေကျင်သာသနာပိုင်၊ အဘိဓဇမဟာ ရဋ္ဌဂုရု) ထံ မွှာစရိယတန်းဆိုင်ရာကျမ်းစာများကို သင်ယူခဲ့သည်။ စစ်ကိုင်းမြို့ မဟာသုဗောဓာရုံတိုက်၌ နောင်တော်များဖြစ်ကြသည့် နာယက၊ တိုက်အုပ်၊ တိုက်ကြပ်ဆရာတော်များထံ၌ သကျသီဟ၊ စေတိ ယင်္ဂဏတန်းဆိုင်ရာ ကျမ်းစာများကို သင်ယူခဲ့သည်။ ရန်ကုန်မြို့ ဇမ္ဗူဒီပကျောင်းဆောင်၌ တိပိဋက ပါဠိ+ မြန်မာ အဘိဓာန်ကျမ်းပြုအဖြစ် ဆောင်ရွက်နေစဉ် ချမ်းမြေ့ရိပ်သာ ဆရာတော် ဘဒ္ဒန္တဇနကာဘိဝံသထံတွင် အင်္ဂလိပ်ဘာသာကို စတင်သင်ယူခဲ့သည်။

၁၃၂၄ ခုနှစ်

၁၉၆၃ ခုနှစ်တွင် ရန်ကုန်စေတိယင်္ဂဏအဘိဝံသ ဘွဲ့ကို ရရှိခဲ့သည်။

၁၃၂၆ ခုနှစ်

၁၉၆၄ ခုနှစ်တွင် သာသနဓဇမွှာစရိယ ဝိနယပါဠိ ပါရဂူဘွဲ့ကို ရရှိခဲ့သည်။

http://www.dhammadownload.com



**၁၃၂၅ ခုနှစ်**

၁၉၆၄ ခုနှစ်တွင် မန္တလေး သကျသီဟ အဘိဓံသ ဘွဲ့ကို ရရှိခဲ့သည်။

**၁၃၃၂ ခုနှစ်**

၁၉၇၃ ခုနှစ်မှစတင်၍ ကျမ်းစာများရေးသား ပြုစုခဲ့ရာ အင်္ဂလိပ်/မြန်မာ နှစ်ဘာသာဖြင့် ကျမ်းစာပေါင်းများစွာ ထုတ်ဝေခဲ့ပြီးဖြစ်သည်။

**၁၃၃၉ ခုနှစ်**

၁၉၈၀ ပြည့်နှစ်တွင် ပထမအကြိမ် သံဃာ့အဖွဲ့ အစည်း အဆင့်ဆင့်အတွက် စစ်ကိုင်း သံဃာ့နာယကအဖွဲ့ (ရွှေကျင်) အဖွဲ့ဝင်အဖြစ်လည်းကောင်း၊ ဓမ္မာစရိယစာမေးပွဲ အကျိုးတော်ဆောင်အဖြစ်လည်းကောင်း၊ နိုင်ငံတော် ဗဟိုသံဃာ့ ဝန်ဆောင် (ရွှေကျင်)အဖြစ်လည်းကောင်း၊ ပထမပြန် စာမေးပွဲ ပြဋ္ဌာန်းကျမ်းစာ ပြင်ဆင်ရေးအဖွဲ့ အဖွဲ့ဝင်အဖြစ်လည်းကောင်း၊ နိကာယ်စာမေးပွဲ စည်းမျဉ်းစည်းကမ်း ရေးဆွဲရေးအဖွဲ့ဝင်၊ နိုင်ငံတော် သီးခြားဝိနည်းဓိုရ်အဖွဲ့ အမှတ် (၁/၉၈)၏ ဝိနည်းဓိုရ်၊ ပထမပြန်စာမေးပွဲ ကျင်းပရေးအဖွဲ့ (စစ်ကိုင်း)၏ ပုစ္ဆကအဖွဲ့ ဥက္ကဋ္ဌအဖြစ်လည်းကောင်း ဆောင်ရွက်ခဲ့သည်။

**၁၃၄၇ ခုနှစ်**

၁၉၈၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံအာသံနှင့် အရုဏာပရာ ဒေ့ရှ်မှ ရဟန်း၊ သာမဏေ၊ ကျောင်းသားငယ်များအား မြန်မာစာ

http://www.dhammadownload.com



နှင့် အဘိဓမ္မာတို့ကို ပို့ချပေးခဲ့သည်။

**၁၃၄၈ ခုနှစ်**

၁၉၈၇ ခုနှစ်တွင် သီရိလင်္ကာနိုင်ငံ၊ ဘော်ရဲလာမြို့၊ Y.M.B.A အသင်းသားများအား အဘိဓမ္မာကို အင်္ဂလိပ် ဘာသာဖြင့် ပို့ချပေးခဲ့သည်။

**၁၃၅၀ ပြည့်နှစ်**

၁၉၈၉ ခုနှစ်တွင် University of Kelaniya မှ M.A (buddhist Studies) ဘွဲ့ကို ရရှိခဲ့သည်။

**၁၃၅၅ ခုနှစ်**

၁၉၉၄ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၊ မေရီ လင်းပြည်နယ်၊ စပရင်းမြို့၊ မင်္ဂလာရာမကျောင်း၌ မြန်မာဗုဒ္ဓ ဘာသာဝင်တို့အား အဘိဓမ္မာဘာသာရပ်ကို ပို့ချပေးခဲ့သည်။

**၁၃၅၇ ခုနှစ်**

၁၉၉၆ ခုနှစ်တွင် နိုင်ငံတော်မှ 'အဂ္ဂမဟာ ဂန္ထဝါစက ပဏ္ဍိတ' ဘွဲ့ကို ဆက်ကပ်ခဲ့သည်။

သီတဂူကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်၌ ပါမောက္ခချုပ်အဖြစ် ဆောင်ရွက်ကာ Department of Language Studies ၌ English Diploma Classes နှင့် B.A တန်းများ၌ ဘာသာရပ်များကို လည်းကောင်း၊ အမေရိက၊ ကိုရီးယား၊ မဏ္ဍဆီကို၊ ဂျာမနီ၊ ပြင်သစ်စသော နိုင်ငံများမှ ကျောင်းသား/

http://www.dhammadownload.com



ကျောင်းသူများအား ပါဠိဘာသာ၊ အဘိဓမ္မာဘာသာရပ်များကို လည်းကောင်း သင်ကြားပို့ချပေးခဲ့သည်။

**၁၃၅၈ ခုနှစ်**

၁၉၉၇ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၊ ဘော်လတီမိုးမြို့၊ ကေလာသဝိဟာရကျောင်း၌ မြန်မာဗုဒ္ဓဘာသာဝင်တို့အား အဘိဓမ္မာသင်တန်း ပို့ချပေးခဲ့သည်။

**၁၃၆၀ ပြည့်နှစ်**

၁၉၉၉ ခုနှစ်တွင် ရန်ကုန်အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်၏ ဩဝါဒါစရိယ၊ ဌေ်ပါမောက္ခချုပ်အဖြစ် ပြည်တွင်းပြည်ပ ကျောင်းသားများအား စာပေပို့ချပေးခဲ့သည်။

**၁၃၆၁ ခုနှစ်**

၂၀၀၀ ပြည့်နှစ်တွင် နိုင်ငံတော်မှ 'အဂ္ဂမဟာပဏ္ဍိတ' ဘွဲ့ကို ဆက်ကပ်ခဲ့သည်။

**၁၃၆၄ ခုနှစ်**

၂၀၀၃ ခုနှစ်တွင် အိန္ဒိယနိုင်ငံ၊ မဂဓတက္ကသိုလ်မှ Ph.D ဒေါက်တာဘွဲ့ကို ရရှိခဲ့သည်။

ထိုနှစ်မှစတင်၍ ဂျာမနီ၊ နယ်သာလန်၊ ဩစတြေးယား၊ အင်္ဂလန်၊ စင်ကာပူ၊ မလေးရှားနိုင်ငံများသို့ နှစ်စဉ်မပျက်ကြွရောက်၍ အဆိုပါ နိုင်ငံသားများအား အဘိဓမ္မာ သင်တန်းများ သင်ကြားပို့ချပေးလျက်ရှိသည်။

http://www.dhammadownload.com



## ၁၃၆၇ ခုနှစ်

၂၀၀၅ ခုနှစ်တွင် ရန်ကုန်အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်၏ ပါမောက္ခချုပ်အဖြစ် တာဝန် ထမ်းဆောင်သည်။

ယခုအခါ ဒေါက်တာနန္ဒမာလာဘိဝံသသည် စစ်ကိုင်း မြို့ မဟာသုဓောဓရုံ စာသင်တိုက်၌ စာသင်သား (၁၈၀) ကျော်တို့အား ငယ်၊ လတ်၊ ကြီး စာဝါများ၊ မွှာစရိယာစာဝါများ၊ သီတဂူ ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်၌ ပါမောက္ခချုပ်တာဝန်များကို ထမ်းဆောင်ရင်း Diploma သင်တန်းများနှင့် B.A ပ၊ဒု၊ တတိယနှစ်များ၌ စာပေပို့ချပေးတော်မူခြင်း၊ ရန်ကုန် အပြည် ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်၌လည်း ပါမောက္ခချုပ်အဖြစ် တာဝန်ထမ်းဆောင်ရင်း တက္ကသိုလ် စာသင်သား ပြည်တွင်းပြည်ပ ကျောင်းသားများစွာတို့အား စာပေများ ပို့ချတော်မူခြင်း၊ စစ်ကိုင်း မဟာသုဓောဓရုံ ကျောင်းတိုက်၊ တိုက်အုပ် နာယက ဆရာတော်အဖြစ် ဆောင် ရွက်လုပ်ကိုင်ရင်း သာသနာပြုလျက်ရှိသည်။

http://www.dhammadownload.com

# မာတိကာ

http://www.dhammadownload.com

# စိတ်ငြိမ်းချမ်းမှု

☆ အတွယ်ရှိသမျှ၊ စိတ်သောက
မုချ ရှိလိမ့်မည်။

တွယ်တာကင်းမှ၊ စိတ်သောက
လုံးဝ ကင်းနိုင်သည်။

သောကမလွှမ်း၊ စိတ်ငြိမ်းချမ်း
တက်လှမ်း နိဗ္ဗာန်ပြည်။

# MIND IN PEACE

- Where there is attachment,
There is worry.

When attachment ceases,
Worry absolutely ceases.

Mind will be in peace,
If freed from worries.
This is attainment of Nibbaña.

http://www.dhammadownload.com

# ရှေးဦးစကား

ဝေမိုး(ကျွန်းလှ)

ရှေးဦးစကား ပြောရလျှင် ပါမောက္ခချုပ် ဆရာတော် ဟောကြား ရေးသား ပြုစုထားသော စာစုများ "သမုဒ္ဒရာကို ယုန်ခြေထောက်နဲ့ ထောက်ကြည့်သော ဥပမာကဲ့သို့" မဓိမကမ်း ကြိုးစား ဖတ်ကြည့်လိုက်သော အခါ 'ကောင်းလိုက်တာ' ဆိုတဲ့စကားထက် ပိုမို အဓိပ္ပာယ် လေးနက်ပြည့်စုံသော စကားလုံးများ ရှိလေမလားဆိုပြီး အဖန်ဖန် အထပ်ထပ် စဉ်းစားရှာဖွေမိပါတယ်။ အစားအစာဆိုတာ ကိုယ်တိုင်မစားဖူးဘဲ သို့မဟုတ် ကိုယ်တိုင် စားမကြည့်ဘဲ အရသာမှန်ကို သိနိုင်ဖို့ မဖြစ်နိုင်ပါ။ သို့

http://www.dhammadownload.com



အတွက် ဤစာအုပ်ကို စာဖတ်သူကိုယ်တိုင် အစအဆုံး တစ်လုံးမကျန် ဖတ်ကြည့်–မြည်းစားကြည့်ပါက "ကောင်းလိုက်တာ" ဆိုတဲ့ စကားလုံးလောက်နဲ့ အဓိပ္ပာယ်ပြီးပြည့်စုံမှု မရှိဘူးဆိုတာ ကိုယ်တိုင် သိသွားပါလိမ့်မည်။ တရားတော်ရဲ့ အမှန်သဘောကိုက "သန္ဒိဋ္ဌိက" ကိုယ်တိုင် ကိုယ်ကျ စမ်းသပ်စစ်ဆေး လုပ်ဆောင်ကြည့်ရမည်ဆိုထားသည် မဟုတ်ပါလား။

"နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ" စာအုပ်မှ ဓမ္မရသ အဆီအနှစ်များကို အမြည်းသဘော သုံးဆောင်ခံစားနိုင်ရန် ထုတ်နုတ်ပြရလျှင်–

(၁) "ပညာနား မရှိဘူးဆိုရင် အသံလေးက ကောင်းလိုက်တာ၊ အပြောက ကောင်းတယ်။ ဒီအဆင့်ပဲ ရှိမယ်။ ဘာမှသိမှာမဟုတ်။ ပညာနားရှိမှ ဒီသဘာဝတရားဟာ ဒီလောက်ထိလေးနက်တယ်ဆိုတာ သဘောပေါက်မယ်။ အဲဒီတော့ ပညာနားဆိုတာ သိပ်အရေးကြီးတယ်။ ပကတိနားက လူတိုင်းလိုလိုရှိကြတယ်။ ထောင်တတ်တဲ့ ပညာနားရှိဖို့ လိုတယ်"

(စာမျက်နှာ–၈၅

(၂) "ယုံကြည်ချက် မထားရင် နားကို မထောင်ဘူး။ လူတစ်ယောက်အပေါ်မှာ မယုံကြည်

http://www.dhammadownload.com



ဘူးဆိုရင် သူပြောတာ နားထောင်မှာ မဟုတ်ဘူး။ ယုံကြည်ချက်ရှိဖို့ အင်မတန်မှ အရေးကြီးတယ်။ ယုံကြည်ချက် ရှိလာတဲ့အခါမှ နားထောင်မယ်။ နားထောင်တဲ့ အခါမှ အကြောင်းအကျိုး အကောင်းအဆိုးသိမယ်။ ဒါကြောင့် မြတ်စွာဘုရားမှာတဲ့ အဓိပ္ပာယ်က သိပ်လေးနက်တယ်။''

(စာမျက်နှာ-၈၆)

(၃) ''တချို့က ပြောသေးတယ်။တပည့်တော်တို့က ဒီလို ချမ်းသာမှုမျိုးကို ရှာတာ မဟုတ်ပါဘူး။ အလုပ်ရှာတာပါတဲ့။ အလုပ်က ဘာအတွက်တုံး၊ ပိုက်ဆံရဖို့၊ ပိုက်ဆံက ဘာအတွက်တုံးဆိုရင် ဒီဘက် ရောက်သွားတယ်၊ လူတိုင်း လူတိုင်းဟာ အလုပ်ရှာတယ်၊ အလုပ်က ငွေရဖို့ပဲ။ လူတွေ ရှာနေတာ ချမ်းသာ။ အဲ့ဒီအပေါ်မှာ ရှာကြံပြီးတော့နေကြမယ်ဆိုရင် 'ကာမသုခလ္လိကာနုယောဂ' လို့ခေါ်တယ်။''

(စာမျက်နှာ-၉၁)

(၄) ''ဘယ်လောက် ချမ်းသာ ချမ်းသာ လူတွေဟာ သောကနဲ့ နေကြရတယ်။ သူ့ကြောင့်ဖြစ်ရတဲ့ နှစ်သက်စရာတွေကို ရှာနေသမျှ

http://www.dhammadownload.com



ကာလပတ်လုံး ထိုပုဂ္ဂိုလ် စိတ်ချမ်းသာမှုကို ဘယ်တော့မှ မရဘူး၊ ထာဝရ အငြိမ်းဓာတ်ကို မရနိုင်ဘူး၊ ဘယ်အရာကိုကြည့်ကြည့်၊ ကမ္ဘာ့သမိုင်းမှာ ဘယ်အရာပဲ ကြည့်ကြည့် သာယာငြိမ်းချမ်းတဲ့ နောက်ဆုံးအဆင့် ရောက်သွားတာ ဘယ်မှာမှ မရှိဘူး။''

(စာမျက်နှာ-၉၅)

(၇) ''အမှန်ကို ဖုံးကွယ်ပြီး အမှားကို တင်ပြတာကို လိမ်တယ်လို့ ပြောတာ၊ အမှန်က သူ့ရင်ထဲမှာ ရှိတယ်။ ဒါပေမဲ့ ဖုံးထားတယ်။ ထုတ်ပြောတော့ မဟုတ်တာ ပြောတယ်။ အဲဒါကို လိမ်တယ်လို့ ခေါ်တာ၊ သူ့ရင်ထဲမှာ ရှိတာက တစ်ခု၊ ပြောတာက တစ်ခု။ ဒါကို မုသာဝါဒလို့ ပြောတယ်။''

(စာမျက်နှာ-၁၀၇)

(၈) ''မိစ္ဆာဝါစာနဲ့ အသက်မွေးပုံက ဆိုပါစို့၊ မုသာဝါဒနဲ့ ဘယ်လို အသက်မွေးသလဲ၊ သူ့အတွက်သူ သက်သက်လိမ်ပြောတာ၊ ဒါ မိစ္ဆာအာဇီဝ မဖြစ်ဘူး။မုသာဝါဒ ဝစီဒုစရိုက်ပဲ ဖြစ်တယ်။ ပိုက်ဆံပေးပြီး သူများက လိမ်ခိုင်းလို့ လိမ်တာကျတော့ မိစ္ဆာအာဇီဝ ဖြစ်

http://www.dhammadownload.com



တယ်။ တရားရုံးတွေမှာ ငွေပေးလို့ လိမ်ပြီး ထွက်ဆိုရင် မိစ္ဆာအာဇီဝ၊ သူက အသက်မွေးမှုနဲ့ ဆိုင်သွားပြီလေ။''

(စာမျက်နှာ–၁၁၂+၁၁၃)

(၇) ''စဉ်းစားကြည့်မယ်ဆိုလို့ရှိရင်၊ ပြဿနာတစ်ခုကို ဖြေရှင်းတော့မယ်ဆိုရင် ထိုပြဿနာကို မှန်မှန်ကန်ကန် နားလည်ဖို့ဆိုတာ အရေးကြီးဆုံးပဲ။ ဘယ်အရာပဲဖြစ်ဖြစ် ပြဿနာတစ်ခု ရှိလာပြီဆိုရင် ၁။ ပြဿနာကို ပြဿနာလို့ မြင်ရမယ်။ ပြဿနာကို ပြဿနာ မဟုတ်ပါဘူးလို့ မြင်နေရင် ဖြေရှင်းဖို့ ကြိုးစားမှာ မဟုတ်ဘူး။ သစ္စာလေးပါးနဲ့ ပြောမယ်ဆိုလို့ရှိရင် ဘဝကို ဒုက္ခလို့ မြင်ရမယ်၊ ဒုက္ခလို့ မမြင်သေးသမျှ တွယ်တာနေဦးမှာပဲ။''

(စာမျက်နှာ–၁၁၉)

(၈) ''မကောင်းမှုဆိုတာ ပုထုဇဉ်ဆိုတော့ လုပ်မိမှာပဲလေ။ လုပ်မိပြီး လွတ်လမ်း မရှိတော့ဘူး။ အဖြေမရှိဘူးဆို ဘယ်ဖြစ်မလဲ။ အဖြေဆိုတာကတော့ ရှိရမှာပေါ့။''

(စာမျက်နှာ–၁၃၇)

http://www.dhammadownload.com



(၉) ''သိပ်အရေးကြီးတဲ့၊ အခြေခံကျတဲ့ကံကို လက်မခံရင် သမ္မာဒိဋ္ဌိ လုံးဝမဖြစ်ဘူး။ ကံရှိလျက် ကံမရှိဘူးလို့ ငြင်းခြင်း၊ ကံရဲ့ အကျိုးတရား ရှိလျက်သားနဲ့ အကျိုးတရား မရှိဘူးလို့ ငြင်းခြင်း၊အကြောင်းတရားတွေ ရှိလျက်နဲ့ အကြောင်းတရား မရှိဘူးလို့ ငြင်းခြင်း ဆိုတဲ့ ငြင်းပယ်တဲ့အမြင်ဟာ မိစ္ဆာဒိဋ္ဌိပဲ။''

(စာမျက်နှာ–၁၄၃)

(၁၀) ''တချို့ပုဂ္ဂိုလ်တွေကျတော့ ကိုယ်ကျင့်တရားကလည်း မကောင်းဘူး၊ ကုသိုလ်ကောင်းမှုလည်း ဘာမှမလုပ်ဘူးဆိုရင် အဲ့ဒီပုဂ္ဂိုလ်ဟာ အကုသိုလ် နည်းနည်း လုပ်ပေမယ့် အများကြီး ခံရမယ်၊ သူများထက် ပြင်းပြင်းထန်ထန် ခံရမယ်။ ငွေတစ်မတ်နဲ့ ထောင်ကျချင်ကျတာ၊ ငွေတစ်သိန်းနဲ့ ထောင်ကျချင်မှကျတာ၊ ပိုက်ဆံရှိရင် မကျဘူး။ ပိုက်ဆံရှိသူနဲ့ ပိုက်ဆံမရှိသူကလည်း ကွာသေးတယ်။ ပိုက်ဆံမရှိရင် ထောင်ကျမယ်၊ ပိုက်ဆံရှိရင် ထောင်မကျဘူး။''

(စာမျက်နှာ–၁၈၀)

http://www.dhammadownload.com



(၁၁) "အပြင်ကလာတဲ့ အကြောင်းတရားတွေဟာ အတွင်းက အကြောင်းတရားမပါဘဲနဲ့ မဖြစ်နိုင်ဘူး။ လောကမှာ ရှိတယ်လေ၊ အတွင်းလူ အပြင်လူဆိုတာ၊ အတွင်းနဲ့အပြင် ပေါင်းစပ်သွားရင် အလုပ်ဖြစ်သွားတယ်။ အဲဒီတော့ အပြင်ကတော့ လာနေတယ်။ အတွင်းက မပါသေးဘူးဆိုရင် သမ္မာဒိဋ္ဌိမဖြစ်သေးဘူး။"

(စာမျက်နှာ–၁၉၆)

(၁၂) "လောကမှာ မိစ္ဆာဝါဒဆိုတာ ခြုံငုံသုံးသပ်ခြင်း မရှိလို့ မှားယွင်းတဲ့ ဝါဒမျိုး ဖြစ်တယ်။ တစ်ဖက်မြင်ကိုပဲ အစွဲအလမ်းကြီးပြီး ကိုယ့်ဘာသာကိုယ် 'ဣဒမေဝသစ္စံ မောဃမညံ'– ငါ့ဟာသာ အမှန်၊ တခြားဟာ အလကား ဆိုတဲ့ ဆိုလိုချက်တွေနဲ့ ကိုယ့် Philosophy ကိုသာ အဟုတ်ထင် စွဲကိုင်ထားပြီး သူများ Philosophy ကိုတော့ ပယ်ချတယ်။ ဒီလိုနဲ့ မိစ္ဆာအယူဝါဒတွေ ပေါ်လာတယ်။"

(စာမျက်နှာ–၂၀၉+၂၁၀)

(၁၃) "အဲဒီလို သဘောပေါက်သွားတာနဲ့ တစ်ပြိုင်နက် ဒိဋ္ဌိဝိသုဒ္ဓိဆိုတာ ဖြစ်လာမှာပါ။ အဲဒီ ဒိဋ္ဌိဝိသုဒ္ဓိဟာ ဘာအမြင်များကို ဖယ်ရှားသလဲ

http://www.dhammadownload.com



ဆိုရင် ခန္ဓာကိုယ်ကြီးကို ငါလို့ ထင်နေတဲ့ အမြင်မှားကို ဖယ်ရှားပစ်မယ်၊ သက္ကာယဒိဋ္ဌိလို့ ခေါ်တယ်။''

(စာမျက်နှာ-၂၄၀)

(၁၄) ''သံသရာလည်တဲ့နေရာမှာ တစ်ခါတစ်ရံ အဝိဇ္ဇာက ဦးဆောင်တယ်။ တစ်ခါတစ်ရံတော့ တဏှာက ဦးဆောင်တယ်။ ဒီနှစ်ခုဟာ ဦးဆောင်မှု ပေးတာချင်း မတူဘူး။ ရှင်းရှင်းလေး ပြောပြမယ်။''

(စာမျက်နှာ-၂၅၄)

(၁၅) ''နာမ်ရုပ်နှစ်ပါးကို ခွဲခြားသိမြင်တဲ့ နာမရူပ ပရိစ္ဆေဒဉာဏ်၊ နာမ်ရုပ်နှစ်ပါးရဲ့ မှန်ကန်တဲ့ အကြောင်းတရားကို သိမြင်တဲ့ ပစ္စယပရိဂ္ဂဟဉာဏ်။ ဒီဉာဏ်နှစ်ပါးကို ရခဲ့ရင် နိဗ္ဗာန်တံခါးအနီး ရောက်ပြီပဲလို့ပြောပါစို့။''

(စာမျက်နှာ-၂၅၅)

အထက်တွင် ထုတ်နုတ်တင်ပြခဲ့သော ဓမ္မရသ အမြည်းကို အနည်းငယ် ခံစားသုံးဆောင် ကြည့်ရုံမျှနဲ့ အလေး၊ အပေါ့၊ အရသာ ကောင်း၊ မကောင်း သိရှိတန် ကောင်းရဲ့လို့ ယုံကြည်ပါတယ်။ တန်ဖိုးအနန္တ ထိုက်သော ရတနာ(၇)ပါးရှိသော လိုဏ်ဂူတွင်းသို့ ရောက်သွားသူ

http://www.dhammadownload.com


တစ်ယောက်သည် အရောင်တစ်ဖိတ်ဖိတ် တောက်နေသော ရွှေ၊ ငွေ၊ ကျောက်သံ၊ ပတ္တမြား စသော အဖိုးတန်သော ရတနာများထဲမှ မည်သည့်ရတနာကို ရွေးချယ်ယူရမှန်း ဝေခွဲမရဖြစ်နေသကဲ့သို့ စာဖတ်သူတို့လည်း ဤ "နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ" စာအုပ်ကို ဖတ်ကြည့်မိပါက ကဏ္ဍတိုင်း၊ ကဏ္ဍတိုင်း၊ စာမျက်နှာတိုင်း၊ စာမျက်နှာတိုင်းက အဖိုးအနဂ္ဃ ထိုက်တန်သည့် အသန့်စင်ဆုံး၊ အမှန်ကန်ဆုံး၊ အကောင်းဆုံးတွေချည်း ဖြစ်နေတဲ့အတွက် ဘယ်အကြောင်းအရာ၊ ဘယ်စာမျက်နှာက စာဖတ်ရမှန်း မသိလောက်အောင် ဝေခွဲရ ခက်နေမည်လားမသိ။

အကောင်းဆုံး အကြံဉာဏ် ပေးလိုသည်မှာ သင့်လက်ဝယ် ရောက်ရှိနေသော "နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ" အမည်ရှိသော ဤစာအုပ်သည် ရှေးဦးစွာ အယူဝါဒရေးရာများကို နှိုက်နှိုက်ချွတ်ချွတ် ဆန်းစစ်တင်ပြထားပြီး ဗုဒ္ဓဝါဒ၏ လမ်းစဉ်နှင့် ပန်းတိုင်တို့ကို မီးမောင်းထိုး လမ်းညွှန်ထားပါတယ်။ အယူမှန်မှ လမ်းမှန်ရောက်၊ လမ်းမှန်ရောက်မှ ပန်းတိုင်ဆိုက်မှာမို့ အယူဝါဒရေးရာဆိုင်ရာတွေကို ဦးစွာတင်ပြထားတာ ဖြစ်ပါတယ်။ ဒီနေရာမှာ တိုက်ဆိုင်လို့ တစ်ခုပြောလိုသည်မှာ စာရေးသူလည်း "ဗုဒ္ဓခေတ် တွေးခေါ်ပညာရှင်ကြီးများ" ဆိုတဲ့

http://www.dhammadownload.com


နာမည်နဲ့ စာအုပ်ရေးဖို့ စာပေတွေ လေ့လာစုဆောင်း ရှာဖွေ ဖတ်ရှုနေချိန် ဖြစ်ပါတယ်။

မှန်ကန်တိကျတဲ့ မဇ္ဈိမပဋိပဒါ ဗုဒ္ဓဝါဒလမ်းစဉ်ကို ယုံကြည်လက်ခံသူတစ်ဦးဟာ ကံနဲ့ကံရဲ့ အကျိုးဆက်၊ အတိတ်ကံနဲ့ ပစ္စုပ္ပန်ကံ၊ ကောင်းကံနဲ့ မကောင်းကံ အစရှိတဲ့ ကံတရားဆိုင်ရာ အကြောင်းခြင်းရာတွေကို ဆန့်ကျင်ငြင်းပယ်လို့ မရစကောင်းပါ။ ဒါကြောင့်လည်း အယူဝါဒဆိုင်ရာတွေ တင်ပြအပြီးမှာ ကံပိုင်းဆိုင်ရာ အကြောင်းခြင်းရာတွေကို လေးလေးနက်နက် ကွက်ကွက်ကွင်းကွင်း ပေါ်လာအောင် ဖတ်မှတ်လေ့လာကြရမှာ ဖြစ်ပါတယ်။

ကံတရားတွေအကြောင်း တင်ပြအပြီးမှာတော့ နိဗ္ဗာန်ရောက်ကြောင်း လမ်းကောင်းလမ်းမှန်တွေကို ပိတ်ပင်တားဆီးတတ်တဲ့ အတွေးမှား၊ အကြံမှား၊ အယူမှား၊ အလုပ်မှား ... အစရှိတဲ့ ကြောက်စရာကောင်းလှတဲ့ မိစ္ဆာဒိဋ္ဌိတွေအကြောင်း၊ အဲဒီလို အများသံသရာ လည်စေတတ်တဲ့ မိစ္ဆာဒိဋ္ဌိတည်းဟူသော အမိုက်တိုက်ကြီးကို မဂ္ဂင်(၈)ပါးဆိုတဲ့ လေထုနှင့် တိုက်ခတ်ဖြိုခွင်းကာ သစ္စာလေးပါး အလင်းရောင်တို့နှင့် အပြီးတိုင် မောင်းထုတ်ဖယ်ရှားလျက် "နိဗ္ဗာန်တံခါး" ပွင့်သည်အထိ စာဖတ်သူတို့အား လမ်းပြခေါ်ဆောင်သွားမှာ ဖြစ်ပါတယ်။

http://www.dhammadownload.com



"ဓမ္မော ဟဝေ ရက္ခတိ ဓမ္မစာရိံ" ဓမ္မ-ဓမ္မဆိုတာ ဓမ္မကို ကျင့်သုံးလိုက်နာသူကိုသာ ဘေးအန္တရာယ်တို့ကနေ ကာကွယ်စောင့်ရှောက်ပေးခြင်း၊ အို နာ သေ ဝဋ်ဒုက္ခတို့ကနေ ကင်းလွတ်အောင် လမ်းညွှန်ပေးခြင်းများ ပြုလုပ်နိုင်ပါတယ်။ သို့အတွက် ဓမ္မက ပေးတဲ့ အကျိုးတရားတွေ အလိုရှိပါက ဓမ္မရဲ့ လမ်းညွှန်ချက်အတိုင်း အတိအကျ လိုက်နာကျင့်သုံးကြဖို့ လိုအပ်ပါတယ်။

အချုပ်ဆိုရလျှင် ရေးသူက မည်မျှ အားစိုက်ရေးရေး၊ ဟောသူကလည်း အပင်ပန်းခံဟောဟော၊ ရေးတဲ့အတိုင်း မလိုက်နာ၊ ဟောတဲ့အတိုင်း မကျင့်သုံးပါက ကြိုးစားလုပ်ဆောင်ခဲ့သမျှ အရာအားလုံး 'အဟောသိကံ' ဖြစ်သွားမည်သာ ...။

သို့ကြောင့် "နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ" စာအုပ်ဖတ်မှတ်နေကြသော စာရှုသူအပေါင်းတို့သည် ဖတ်တဲ့အတိုင်းသိ၊ သိတဲ့အတိုင်း လိုက်နာကျင့်သုံး၊ လိုက်နာကျင့်သုံးတဲ့အတိုင်းလည်း ဓမ္မရသအကျိုးထူးများ ရရှိခံစားနိုင်ကြပါစေဟု စေတနာဆန္ဒပြုလိုက်ရပါတယ်။

မေတ္တာဖြင့် -
ဝေမိုး (ကျွန်းလှ)
၂၃-၇-၂၀၀၈ (ဗုဒ္ဓဟူးနေ့)

http://www.dhammadownload.com

# ဘဝတန်ဖိုး အရယူ

☆ အတိတ်ကိုတွေး၊ မဆွေးလေနဲ့၊
အတိတ်ဆိုတာ ပြန်မလာဘူး။
☆ အနာဂတ်မှန်းဆ၊ မလွမ်းတနဲ့၊
အနာဂတ်ဆိုတာ၊ မသေချာဘူး။
☆ ပစ္စုပ္ပန်မှာ၊ လုပ်သင့်ရာဝယ်၊
ပညာလုံ့လ၊ အသုံးချလျက်၊
ဘဝတန်ဖိုး၊ အားမာန်ကိုး၍
မြတ်နိုးကြည်ဖြူ အရယူလော့။

# SEIZE LIFE'S VALUE

DON'T REGRET THE PAST,
THE PAST HAS GONE.
DON'T LONG FOR THE FUTURE.
FUTURE IS NOT SURE.
SEIZE THE VALUE OF LIFE,
ENERGETICALLY AND FOUNDLY,
WITH KINOWLEDGE AND EFFORT,
DOING WHAT SHOULD BE DONE AT PRESENT.

http://www.dhammadownload.com

ဒေါက်တာနန္ဒမာလာဘိဝံသ၏

# နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ
## (အပိုင်း-၁)

သာသနာတော်နှစ် ၂၅၅၁-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၆၉-ခုနှစ်၊ တန်ဆောင်မုန်းလပြည့်နေ့ည၊ ရန်ကုန်မြို့၊ စမ်းချောင်းမြို့နယ် ကံမြင့်ကျောင်းတိုက် ညဦးယံဓမ္မသဘင် အခမ်းအနားၓ တောင်ဥက္ကလာပမြို့နယ်၊ အမှတ် (၆)၊ အင်းကြင်းလမ်းနေ မြေးငယ်လေး မောင်နေပိုင်စွမ်းအတွက် အဘိုး ဦးခင်ရွှေ + ဒေါ်မေလှိုင် မိသားစုတို့၏ အမတဒါနဓမ္မဒါနအနေဖြင့် ဟောကြားအပ်သော နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ တရားဒေသနာတော်။

http://www.dhammadownload.com


# နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ

''နိဗ္ဗာန်တံခါးကြီးဖွင့်တော်မူပါ'' ဟု လျှောက်ထားသူဟာ သဟမ္ပတိဗြဟ္မာကြီး ဖြစ်တယ်။ ဗုဒ္ဓမြတ်စွာ ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက် (၄၉)ရက်မြောက်တဲ့နေ့မှာ မိမိကိုယ်တော်တိုင် သိတော်မူခဲ့တဲ့တရားဓမ္မတွေကို စဉ်းစားဆင်ခြင်လိုက်တဲ့အခါ တရားဓမ္မတွေဟာ အလွန်ခက်ခဲ နက်နဲပြီး တရားနာယူမယ့် သတ္တဝါတွေရဲ့အခြေအနေကို လေ့လာတဲ့အခါကာမဂုဏ်(၅)ပါး အာရုံတရား၌ ပျော်ပါးစိတ်တွေက လွှမ်းမိုးပြီးတော့နေတာတွေ့ရတယ်။

ခက်ခဲနက်နဲသော တရားဓမ္မတွေနဲ့ ကာမဂုဏ်အာရုံကို နှစ်သက်နေကြတဲ့ သတ္တဝါတွေဟာ အံဝင်ခွင်ကျမဖြစ်နိုင်တဲ့အတွက် မြတ်စွာဘုရားက ''ငါသိတဲ့တရားဓမ္မတွေကို သူတို့ကို ဟောလို့တော့ ဖြစ်မယ် မထင်ဘူး။ ဟောခဲ့မယ်ဆိုရင်လည်း ငါပဲ ပင်ပန်းရုံပဲ ရှိမယ်''လို့ တရားမဟောဖို့ စိတ်ညွတ်သွားတယ်။ အဲဒီအချိန်မှာ မြတ်စွာဘုရား စိတ်ထဲမှာ ပေါ်လာတဲ့အတွေးကို ချက်ချင်းသိသွားတဲ့၊ ဘုရားရဲ့စိတ်ကို စောင့်ကြည့်နေတဲ့

http://www.dhammadownload.com


သဟမ္ပတိဗြဟ္မာကြီးက မြတ်စွာဘုရားအား "တရားဟောတော်မူပါ၊ နိဗ္ဗာန်တံခါးကြီးဖွင့်တော်မူပါ" ဟု လျှောက်ထားခြင်းဖြစ်တယ်။

ရှေးရှေးက ပွင့်တော်မူခဲ့ကြတဲ့ ဝိပဿီ အစရှိသော ဘုရားများလည်း ထို့အတူပဲ တရားဓမ္မတော်တွေရဲ့လေးနက်ခက်ခဲမှုကို စဉ်းစားဆင်ခြင်လိုက်၊ သတ္တဝါတွေရဲ့ကာမဂုဏ်အာရုံပေါ်မှာ ပျော်မွေ့နေတဲ့ အနေအထားတွေကို ကြည့်လိုက်၊ အဲဒီလို ယှဉ်ကြည့်လိုက်တဲ့အခါတိုင်းမှာ စိတ်ပျက်ဖွယ်ရာတွေချည်းပဲ တွေ့ရတယ်၊ ဘာဖြစ်လို့လဲဆိုတော့ တရားဓမ္မနှင့် တရားနာမည့်ပုဂ္ဂိုလ်တွေက အံဝင်ခွင်ကျ မဖြစ်လို့ဖြစ်တယ်၊ သို့ပေမယ့် ဝိပဿီစတဲ့မြတ်စွာဘုရားတွေကို ဗြဟ္မာတွေက လျှောက်ထားတဲ့အခါ တရားဟောဖို့သာ လျှောက်ထားခဲ့တယ်။ ဂေါတမမြတ်စွာဘုရားအား သဟမ္ပတိ ဗြဟ္မာကြီးက လျှောက်ထားတဲ့အခါ "တရားဟောတော်မူပါ"ဟု လျှောက်ထားတဲ့အပြင် "နိဗ္ဗာန်တံခါးကြီး ဖွင့်တော်မူပါ"ဟု ထည့်သွင်းလျှောက်ထားခဲ့တာကို တွေ့ရတယ်။ အဲဒီလို ထည့်လျှောက်ရတာကတော့ ထိုခေတ် ထိုကာလရဲ့ အခြေအနေအရပ်ရပ်ကို ဆင်ခြင်သုံးသပ်ပြီးတော့ ဖြစ်တယ်။

http://www.dhammadownload.com



ဗုဒ္ဓမြတ်စွာဟာ အားလုံး သိကြတဲ့အတိုင်း မဂဓတိုင်းမှာ ပွင့်တော်မူခဲ့တယ်။ ကနေ့ခေတ် ဗုဒ္ဓဂယာလို့သိကြတဲ့ ဒေသရှိတည်ရာ အိန္ဒိယနိုင်ငံ ဗီဟာ ပြည်နယ်ဖြစ်ပြီး၊ ရှေးဟောင်း အမည်ကတော့ မဂဓတိုင်း ဖြစ်တယ်၊ ထိုခေတ်အခါက အဲဒီမဂဓတိုင်းမှာ ဘာသာတရားအမျိုးမျိုး ထွန်းကားနေခဲ့တဲ့ အခြေအနေကို ဗြဟ္မာကြီး သဟမ္ပတိက ယခုလို ထည့်သွင်း လျှောက်ထားခဲ့တယ်။

"ပါတုရဟောသိ မဂဓေသု ပုဗ္ဗေ၊
ဓမ္မော အသုဒ္ဓေါ သမလေဟိ စိန္တိတော။
အပါပုရေတံ အမတဿ ဒွါရံ။
သုဏန္တု ဓမ္မံ ဝိမလေနာနုဗုဒ္ဓံ။"

ပုဗ္ဗေ၊ ရှင်တော်ဘုရားထင်ရှားမပွင့်မီ ရှေးယခင်ဆီက။ မဂဓေသု၊ မဂဓတိုင်း အရပ်ဒေသတို့၌။ သမလေဟိ၊ ကိလေသာ အညစ်အကြေးရှိကြကုန်သော တိတ္ထိဆရာကြီးတို့သည်။ စိန္တိတော၊ ကြံစည်တွေးတော၍ ဟောပြောအပ်သော။ အသုဒ္ဓေါ၊ စင်ကြယ်မှုကို မပေး နိုင်သော။ ဓမ္မော၊ မိစ္ဆာဝါဒတရားသည်။ ပါတုရဟောသိ၊ ပေါ်ပေါက်၍နေခဲ့ပါပြီ။

http://www.dhammadownload.com



သဟမ္ပတိ ဗြဟ္မာကြီးက ဒီစကားလေးကို ထည့်ပြီးတော့ လျှောက်တယ်၊ ရှေးရှေး ပွင့်တော်မူခဲ့တဲ့ ဘုရားတွေကိုလျှောက်ထားတဲ့အခါမှာ ဒီစကားလေး မပါဘူး။ ရှေးရှေး ဘုရားတွေ လျှောက်တဲ့အခါမှာ တရားဟောဖို့ပဲ ပါတယ်၊ ဂေါတမမြတ်စွာဘုရားကို လျှောက်ထားတော့ ဒီစကား ပါလာတယ်။

မဂဓတိုင်းမှာ ဘာသာတရား အမျိုးမျိုး ထွန်းကားနေတဲ့အချိန် ဂေါတမမြတ်စွာဘုရား ပွင့်တော်မူခဲ့တယ်။ လူ့သက်တမ်းတိုတဲ့ အချိန်မှာ ဘုရားရှင် ပွင့်ရလို့ အယူဝါဒတစ်ခုဟောရန် ခက်ခဲခြင်း။ ဘုရားမပွင့်မီကတည်းက အယူဝါဒ အများတွေ ရှိနေခြင်းတို့ကြောင့် နိဗ္ဗာန်တံခါးကြီးဟာ ဖွင့်လို့ မရလောက်အောင် ပိတ်ဆို့နေတဲ့ အနေအထားလေးမှာ ရှိပါတယ်။ အဲဒီ အခြေအနေကို ဗြဟ္မာကြီးက ထည့်လျှောက်ထားတယ်။

''ပုဗ္ဗေ၊ ရှင်တော်ဘုရား ထင်ရှားမပွင့်မီ ရှေးယခင်ဆီက။ မဂဓေသု၊ မဂဓတိုင်း အရပ်ဒေသတို့၌။ သမလေဟိ၊ ကိလေသာ အညစ်အကြေးရှိကြကုန်သော တိတ္ထိဆရာကြီးတို့သည်။ စိန္တိတော၊ ကြံစည် တွေးတော၍ ဟောပြောအပ်သော။ အသုဒ္ဓေါ၊ စင်ကြယ်မှုကို မပေးနိုင်သော။ ဓမ္မော၊ မိစ္ဆာဝါဒ တရားသည်။ ပါတု ရဟောသိ၊ ပေါ်ပေါက်၍နေခဲ့ပါပြီ။''

http://www.dhammadownload.com



အရှင်ဘုရား မပွင့်ခင်ကတည်းက ဒီမဂဓတိုင်းမှာ မှားမှားယွင်းယွင်းနဲ့ အယူဝါဒမျိုးစုံ ထွန်းကားနေခဲ့ပါတယ်ဘုရား။

**"အပါပုရေတံ အမတဿ ဒွါရံ။ ဘန္တေ၊ ရွှေဘုန်းတော်သခင် ရှင်တော်မြတ်ဘုရား။ တေံ အမတဿ ဒွါရံ၊ ဤအမြိုက်နိဗ္ဗာန်တံခါးကြီးကို၊ အပါပုရ–ဝိဝရ၊ ဖွင့်တော်မူလိုက်ပါ။"**

အဲဒီလို အယူဝါဒတွေ မထွန်းကားဘူးဆိုရင် တရားတော်ကိုပဲ မြတ်စွာဘုရားက ဟောလိုက်တာနဲ့ လူတိုင်းလူတိုင်း နားလည်နေမှာပေ့ါ၊ အခုတော့ ဒီလို မဟုတ်ဘဲ လူတွေရဲ့ ရင်ထဲ နှလုံးထဲ အသိဉာဏ်ထဲမှာ မိစ္ဆာဝါဒတရားတွေက လွှမ်းမိုးပြီးတော့နေတယ်။

ဥပမာ ပြောရရင် အဆောက်အအုံ ဆောက်မယ့်နေရာတစ်ခုမှာချုံနွယ်ပိတ်ပေါင်းတွေ ထူပြောနေမယ်ဆိုရင် ပထမဦးစွာ ထိုချုံနွယ်တွေကို အရင်ရှင်းပြီးမှ ဆောက်ရမယ်၊ မူလကတည်းက ရှင်းလင်းနေတဲ့ နေရာဆိုရင်အဆောက်အအုံ ကောက်ပြီးတော့ ဆောက်လိုက်ရုံပဲ၊ ရှင်းစရာမလိုဘူး။ တခြား ဗုဒ္ဓတွေ ပွင့်တော်မူစဉ်မှာ ထိုကဲ့သို့ ရှင်းလင်းစရာမလိုဘဲနဲ့ တရားဓမ္မကို တန်းပြီးတော့ ဟောလို့ရတယ်။ ဂေါတမမြတ်စွာဘုရား

http://www.dhammadownload.com



ကျတော့ ဟောဒီ မိစ္ဆာဝါဒတွေ ရှုပ်ထွေးနေလို့ ဒါတွေ ရှုပ်နေတာကို အရင် ရှင်းလင်းနိုင်မှ ဖြစ်မယ်။ မရှင်း နိုင်ရင် နိဗ္ဗာန်တံခါးကြီး ပိတ်နေမှာပဲ။

မြတ်စွာဘုရား မပွင့်ခင်ကတည်းက အဲဒီ မဂဓတိုင်းမှာ မိစ္ဆာဝါဒတွေ ပေါ်ပေါက်နေပါတယ်၊ အဲဒီ မိစ္ဆာဝါဒတရားတွေကို ဟောပြောနေတဲ့ ပုဂ္ဂိုလ်တွေဟာ သမလ ကိုယ်တိုင်က ကိလေသာ အညစ်အကြေးတွေ မကင်းတဲ့ပုဂ္ဂိုလ်တွေ၊ တစ်ဦးနဲ့တစ်ဦး ကွဲပြားခြားနားတဲ့ အယူဝါဒတွေ၊ အခုခေတ်လို ပြောကြရင် philosophy တွေပေါ့။ philosophy တွေ တစ်ဦးနဲ့တစ်ဦး ဆန့်ကျင် တဲ့ အတွေးအမြင်တွေနဲ့ လူ့လောကကြီးမှာ ဟောကြား ဖြန့်ဖြူးပြီးတော့ နေကြတယ်။ သူတို့ရဲ့ အယူဝါဒတွေ တစ်ခုနဲ့ တစ်ခု မတူကြလို့ လူတွေရဲ့ စိတ်ထဲမှာလည်း အမှန်တရားက ဘာလဲဆိုတာ မသိနိုင်ကြဘူး။ ဒါ ကြောင့် သဟမ္ပတိဗြဟ္မာကြီးက မြတ်စွာဘုရားအား ခေတ်အခြေအနေကိုပါ ထည့်ပြီး လျှောက်တယ်။

"ဘန္တေ၊ ရွှေဘုန်းတော်သခင် ရှင်တော်မြတ် ဘုရား။ ပုဗ္ဗေ၊ ရှင်တော်ဘုရား ထင်ရှားမပွင့်မီ ကြိုတင်၍ ပင်။ မဂဓေသု၊ မဂဓတိုင်း အရပ်ဒေသတွေမှာ။ သမ လေဟိ၊ ကိလေသာ အညစ်အကြေးရှိကြကုန်သော တိတ္ထိဆရာကြီးတို့သည်။ စိန္တိတော၊ ကြံစည် ဟောပြော

http://www.dhammadownload.com



အပ်တဲ့။ အသုဒ္ဓေါ၊ စင်ကြယ်မှုကို မပေးစွမ်းနိုင်တဲ့။ မမ္မော၊ မိစ္ဆာဝါဒ တရားသည်။ ပါတုရဟောသိ၊ ပေါ် ပေါက်၍ နေပါပြီ။

ဒါတွေ ပေါ်ပေါက်နေလို့ နိဗ္ဗာန်တံခါးကြီးဟာ ပိတ်နေပါတယ်။ လမ်းကြောင်းကြီးတစ်ခု ပိတ်ဆို့ ထားသလို ဖြစ်နေတယ်။

ဘန္တေ၊ ရွှေဘုန်းတော်သခင် ရှင်တော်မြတ် ဘုရား။ တေံ အမတဿ ဒွါရံ၊ ဤအမြိုက် နိဗ္ဗာန် တံခါးကြီးကို။ အပါပုရ-ဝိဝရ၊ ဖွင့်တော်မူလိုက်ပါ။

နိဗ္ဗာန်တံခါးကြီးဖွင့်တော်မူလိုက်ပါလို့ လျှောက် ထားတယ်။ ဘာဖြစ်လို့လဲ ဆိုတော့ နိဗ္ဗာန်တံခါးကြီး ဟာ မိစ္ဆာဝါဒတွေနဲ့ ဆို့ပိတ်ထားလို့ နိဗ္ဗာန်သွားရန် လမ်းစတောင်ပျောက်ပြီး မည်သူမှ နိဗ္ဗာန်ကို ဝင်ရောက် နိုင်မှာ မဟုတ်ဘူး။

"ဝိမလေန၊ အညစ်အကြေးကင်းတဲ့ ရှင် တော်မြတ်ဘုရားသည်။"ခုနပုဂ္ဂိုလ်တွေက "သမလ" တဲ့၊ သူတို့စိတ်တွေက မစင်ကြယ်ဘူး၊ မြတ်စွာဘုရား ကျတော့ "ဝိမလ၊" ကိလေသာ အညစ်အကြေးတွေ စင်ကြယ်နေတယ်၊ အဲဒီတော့ ကိုယ်တိုင်က ညစ်နွမ်းနေ တဲ့ ပုဂ္ဂိုလ်တွေက စင်ကြယ်အောင် ဘယ်လိုလုပ်မှ မဟောနိုင်ဘူး၊ ကိုယ်တိုင်က ညစ်ပေနေတဲ့ ပုဂ္ဂိုလ်

http://www.dhammadownload.com


တစ်ယောက်ဟာ သူများကို သန့်ရှင်းအောင် လုပ်မပေးနိုင်သလို၊ ကိုယ်တိုင်က သန့်ရှင်းနေတဲ့ ပုဂ္ဂိုလ်မှသာလျှင် သူများကို သန့်ရှင်းအောင် လုပ်ပေးနိုင်မှာ။

မိစ္ဆာအယူဝါဒလွှမ်းမိုးပြီးတော့ နေကြတဲ့ တိတ္ထိဆရာကြီးတွေက သမလ၊ သူတို့ကိုယ်တိုင်ကိုက စိတ်အစဉ်မှာ သန့်ရှင်းမှု မရှိဘူး။ လောဘတွေ၊ ဒေါသတွေ၊ မောဟတွေ၊ မာန်မာနတွေနဲ့၊ ကိလေသာ အညစ်အကြေးတွေနဲ့ ညစ်ထေးနေတဲ့ ပုဂ္ဂိုလ်တွေ၊ အဲဒီတော့ သူတို့ဟောပြောတဲ့တရားဟာ မှန်ကန်တဲ့ တရား မဖြစ်နိုင်ဘူး။

ဗုဒ္ဓမြတ်စွာကျတော့ "ဝိမလ"= ကိလေသာ အညစ်အကြေးတွေ ကင်းနေတယ်၊ စိတ်က အလွန်သန့်ရှင်းနေတယ်။ သန့်ရှင်းနေတဲ့ စိတ်အစဉ်မှာ ဉာဏ်အမြင်ကလည်း ကြည်လင်နေလို့ ဗုဒ္ဓမြတ်စွာဟောတဲ့ တရားကသာလျှင် လူတွေရဲ့ လူတွေရဲ့စိတ်အစဉ်ကို ရှုပ်ထွေးမှုတွေ၊ အညစ်အကြေးတွေကို ဖယ်ရှားနိုင်မှာ ဖြစ်ပါတယ်။

"သုဏန္တု ဓမ္မံ ဝိမလေနာနုဗုဒ္ဓံ။ ဝိမလေန၊ အညစ်အကြေးကင်းဝေးတော်မူတဲ့ မြတ်စွာဘုရားသည်။ အနုဗုဒ္ဓံ၊ လျော်စွာ သိတော်မူအပ်တဲ့။ ဓမ္မံ၊ သစ္စာလေးပါး မြတ်တရားကို။ သုဏန္တု၊ သတ္တဝါတွေ

http://www.dhammadownload.com



ကြားနာခွင့် ရကြပါစေဘုရား ဟူ၍။ အဝေါစ၊ ကောင်းစွာမသေ္ခ လျှောက်ကြားခဲ့ပါပေသတည်း။''

(သာဓု . . သာဓု . . သာဓု)

## အညတိတ္ထိယ ၆-ဦး

သဟမ္ပတိဗြဟ္မာကြီးက အခုလို ဗုဒ္ဓမြတ်စွာကို တရားဟောပြောဖို့ လျှောက်ထားတဲ့အခါမှာ မဂဓ တိုင်းမှာ မိစ္ဆာဝါဒတွေ ထွန်းကားနေပါတယ်တဲ့။ ဘယ် လိုဝါဒတွေ ထွန်းကားနေသလဲလို့ ပိဋကတ်စာပေမှာ လှေ့လာပြီး ကြည့်လိုက်တော့ မြတ်စွာဘုရားရှင်နဲ့ ခေတ် ပြိုင်အတွေးအခေါ် ဘာသာတရား တည်ထောင်သူ ဆရာကြီး (၆)ဦး ရှိကြောင်း သိရတယ်။

ပဌမပုဂ္ဂိုလ်ကြီးက ကျမ်းစာထဲမှာပါတဲ့ အစီ အစဉ်နဲ့ပြောမယ်ဆိုရင် ပူရဏကဿပ လို့ခေါ်တယ်။ အဲဒီပုဂ္ဂိုလ်ကြီးက သက်ကြီးဝါကြီး။ သူ့ရဲ့ဝါဒကို ကြိုက်လို့ သူ့ရဲ့နောက်ကိုလိုက်တဲ့ နောက်လိုက်တွေ များစွာရှိ တယ်။ သမဏဂိုဏ်းဝင်တဦးဖြစ်ပြီးတော့ အစေလက– အဝတ်မဝတ်တဲ့ တက္ကတွန်း အမျိုးအစား ဖြစ်တယ်။

ဒုတိယပုဂ္ဂိုလ်က မက္ခလိဂေါသာလ လို့ခေါ် တယ်။ သူကလည်းပဲ အယူဝါဒတစ်ခုကိုဦးဆောင်ပြီးဟော လာတာ အသက်အရွယ်ရလာပြီ။ နောက်လိုက်နောက်

http://www.dhammadownload.com



ပါတွေလည်း မြောက်များစွာရှိတယ်။ သူ့ကိုကြည်ညိုတဲ့ ပုဂ္ဂိုလ်တွေလည်းများစွာရှိတယ်။ လူတွေက သူ့ကို 'သာဓု' လို့ခေါ်ကြတယ်။ လူများစွာက သူ့ကို 'သာဓု' သူတော်ကောင်းကြီးလို့ အသိမှတ်ပြုကြတယ်။ ခုခေတ်လိုဆိုရင် Saint ပေါ့။ အိန္ဒိယစကားအရ ဆာဒူးကြီးပေါ့၊ ဆာဓု ဆိုတာ သူတော်ကောင်းကို ပြောတာ။ သာဓုလို့ ဗမာလူမျိုးတွေ အသံထွက်တယ်၊ International pronunciation အသံထွက်အရ ဆိုရင် ဆာဓု လို့ ထွက်တယ်၊ ဒါပေမဲ့ ခုခေတ် ရေးနေကြတာကတော့ ဒထွေးနဲ့ ဆာဒူးပေါ့၊ အမှန်ကတော့ ဆာဒူး ဆိုတာ သူတော်ကောင်းလို့ ပြောတာ။

အဲဒီတော့ သာဓုသမ္မတော=သူ့ကို သူတော်ကောင်းကြီးလို့ လူအများက အသိအမှတ်ပြုထားကြတယ်၊သူ့အပြင်နောက်လိုက်နောက်ပါတွေလည်းရှိတယ်။ ဘုရားမပွင့်ခင်ကတည်းက သူကကြိုတင်ပြီးတော့ မဂဓတိုင်းမှာ လှည့်လည်ပြီးတော့ သူတို့ရဲ့ အယူဝါဒတွေကို ဟောပြောနေကြတယ်။ တစ်ဦးနဲ့တစ်ဦးလည်း တူတာ မဟုတ်ဘူး။ အဲဒီပုဂ္ဂိုလ် (၆)ဦးလုံးဟာ သူတို့ကိုယ်သူတို့ သဗ္ဗညုတ ရွှေဉာဏ်ရှင်၊ အားလုံးကိုသိတဲ့ဘုရားအဖြစ် ကြေညာထားတဲ့ ပုဂ္ဂိုလ်တွေချည်းပဲ။

http://www.dhammadownload.com



တတိယပုဂ္ဂိုလ်ကတော့ အဇိတ ကေသကမ္ဗလဖြစ်ပြီး၊ အဇိတ ဆိုတာက ဘယ်သူမှ သူ့ကိုအနိုင်ယူလို့မရတဲ့ပုဂ္ဂိုလ်၊ သူကပဲ နိုင်တယ်ပေါ့၊ ကေသကမ္ဗလဆိုတာက လူ့ဆံပင်အဝတ်၊ သူက သူများတွေနဲ့မတူဘူး၊ ခုန ပူရဏကဿပတို့၊ မက္ခလိဂေါသာလတို့ကတော့ အဝတ်မဝတ်ကြဘူး၊ ဒီ အဇိတ ဆရာကြီးကတော့ သူက အဝတ်ဝတ်တယ်၊အဝတ်ဝတ်ပေမယ့်ချည်ထည်နဲ့ ရက်ထားတဲ့အဝတ်ကို မဝတ်ဘဲ လူ့ဆံပင်နဲ့ ရက်ထားတဲ့ အဝတ်ကို ဝတ်ဆင်ထားတယ်။ လူ့ဆံကမ္ဗလာ အဝတ်နဲ့၊သူ့ရဲ့ဖက်ရှင်က တစ်မျိုး၊ ဒီကနေ့ခေတ်တောင် ဒါမျိုးရှိမယ်မထင်ဘူး၊ လူ့ဆံပင်နဲ့ ရက်ထားတဲ့အဝတ်ကြီးဆိုတော့ ဆံပင်အနက်ရောင်ဆိုရင်တော့ ဒါအနက်ရောင်အဝတ်ကြီး ဝတ်ဆင်ထားတာဖြစ်မယ်၊ ဆံပင်ဖြူနဲ့တော့ ရက်မယ် မထင်ပါဘူး။ ဆံပင်ဖြူနဲ့ လုပ်ခဲ့ရင်တော့အဖြူရောင်ပေါ့။ ရွှေရောင်ဆံပင်နဲ့ ဆိုရင်တော့ သူ့အဝတ်က ရွှေရောင်အဝတ် ဖြစ်မှာပေါ့။

မြတ်စွာဘုရားက သုတ္တန်တစ်ခုမှာ ဟောထားတာက လူ့ဆံပင်နှင့်ရက်ထားတဲ့အဝတ်ဟာ ရာသီဥတုပူရင်လည်းအရမ်းပူပြီး၊ အေးရင်လည်းအရမ်းအေးတယ်၊ ဆိုလိုတာက အအေးဒဏ်ကိုလည်း မကာကွယ်နိုင်ဘူး၊

http://www.dhammadownload.com



အပူဒဏ်ကိုလည်း မကာကွယ်ဘူးလို့ပြောတာ။ ရာသီဥတုဒဏ်မခံနိုင်ဘူး။ ပြီးတော့ ဆံပင်ဆိုတာက လူ့ခန္ဓာကိုယ်နဲ့တွဲရက်ရှိနေတာတောင် အမြဲတမ်း ဖြီးလိမ်းလျှော်ပြီးတော့ အမွှေးနံ့သာတွေဘာတွေ လုပ်မှ၊ မလုပ်ခဲ့ရင် အနံ့က ဆိုးသတဲ့၊ မကောင်းတဲ့ အနံ့ ထွက်တယ်။

မြတ်စွာဘုရားက အဲဒီ လူ့ဆံပင်နဲ့ ရက်လုပ်ထားတဲ့ အဝတ်ဟာ အဝတ်တွေထဲမှာတော့ အညံ့ဆုံးပဲတဲ့။ ဒါကြောင့်မို့လည်း ဒီကနေ့ခေတ် မရှိတော့တာ ထင်ပါရဲ့၊ လူကြိုက်နည်းသွားတာနေ့ာ်၊ သို့သော် အဇိတ ဆရာကြီးကတော့ အဲဒီလူဆံပင်နဲ့ ရက်လုပ်ထားတဲ့ အဝတ်အထည်ကြီးကို ဝတ်ဆင်ပြီးတော့ သူက ခုခေတ်လိုပြောရင်တော့ စတန့်တစ်မျိုး၊ ဖက်ရှင်တစ်မျိုး ထွင်တာ ဖြစ်မယ်နော်၊ သူကလည်း အယူဝါဒတစ်ခုဖြန့်ဖြူးပြီးနေတယ်၊ သူ့ဝါဒကြိုက်တဲ့လူတွေအများကြီး၊ သူ့ဝါဒကြိုက်တဲ့ တပည့် သားမြေးတွေအများကြီးနဲ့ သူကလည်း ထင်ပေါ်ကျော်ကြားတဲ့ ဆရာကြီးတစ်ဦးဖြစ်တယ်။

အဲဒီနောက် စတုတ္ထပုဂ္ဂိုလ်ကတော့ ပကုဓ ကစ္စာယနတဲ့။ ပကုဓ ဆိုတာကတော့ သူ့ရဲ့နာမည်ပဲ၊ ကစ္စာယနဆိုတာက သူတို့ရဲ့ အနွယ်က ရလာတဲ့ နာမည်ပေ့ါ။ ဂေါတမဗုဒ္ဓလို့ ဆိုတဲ့နေရာမှာ အားလုံး သိကြတဲ့အတိုင်း ဗုဒ္ဓမြတ်စွာရဲ့ ငယ်နာမည်က သိဒ္ဓတ္ထ

http://www.dhammadownload.com



ပေါ့၊ သို့သော် အမျိုးရဲ့အနွယ်ကို ပြောမယ်ဆိုလို့ရှိရင် ဂေါတမအနွယ်ဖြစ်လို့ ဂေါတမဗုဒ္ဓလို့ခေါ်တာ၊အနွယ်နဲ့ ခေါ်တာ Surname ပေါ့။ မျိုးရိုးရဲ့ နာမည်။ ဒီကနေ့ အိန္ဒိယမှာလည်းပဲ ဂေါတမဆိုတဲ့ အနွယ်ရှိတဲ့ ပုဂ္ဂိုလ်တွေ အများကြီးရှိတယ်။ ဒါက အနွယ်တစ်ခုပေါ့၊ ဗုဒ္ဓမြတ်စွာ ကတော့ သကျလူမျိုးထဲက ဂေါတမအနွယ်ပေါ့။

အေး ... မြန်မာနိုင်ငံမှာဆိုရင်တော့ ဂေါတမ ထမင်းဆိုင်ဆိုတာ ဘယ်သူမှဖွင့်ရဲမယ် မထင်ဘူး။ သို့သော် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာရောက်ဖူးတဲ့သူတွေတွေ့ ပါလိမ့်မယ်၊ ဗုဒ္ဓဂယာမှာရှိတဲ့ မြန်မာကျောင်းနဲ့ မျက်နှာ ချင်းဆိုင် ထမင်းဆိုင်တစ်ခုမှာ ရေးထားတာ Gautam Restaurant ဆိုပြီးတော့၊ အဲဒါ ဂေါတမ ထမင်းဆိုင် ပဲ၊ သူတို့အသံထွက်နဲ့ ဂေါက်တမ် Gautam လို့ထွက် တယ်၊ ဂေါတမပဲ၊ သက္ကတဘာသာနဲ့ ဂေါက်တမ (Gautama) လို့ ရေးတယ်၊ ပါဠိဘာသာနဲ့ကျတော့ (Gotama) ဂေါတမ၊ 'မ' ကို အသံမထွက်ဘဲနဲ့ ဒါကို "ဂေါက်တမ်"၊ ဒီလို အသံထွက်တယ်၊ အေး ... အဲဒီလို အနွယ်နဲ့ခေါ်တဲ့ နာမည်ပေါ့။

အဲဒီလိုပဲ ကစ္စာယနဆိုတာ အနွယ်ပဲ။ အဲဒီ ပကုဓကစ္စာယနဆိုတဲ့ ဆရာကြီးကလည်းသူ့ရဲ့အယူဝါဒ (philosophy)တွေကို ဟောပြောပြီးတော့ ဖြန့်ဖြူး

http://www.dhammadownload.com



နေလေရဲ့၊ ကျန်တဲ့ ပုဂ္ဂိုလ်တွေရဲ့ အယူဝါဒနဲ့မတူဘူး၊ သူကလည်း သူ့ကိုယ်သူ သဗ္ဗညုဘုရားအဖြစ် ဝန်ခံပြောကြားထားတဲ့ပုဂ္ဂိုလ်တစ်ဦး ဖြစ်တယ်။

နောက်တစ်ဦး ပဉ္စမပုဂ္ဂိုလ်ကတော့ နိဂဏ္ဌနာဋပုတ္တ ဖြစ်တယ်။ နိ–ဆိုတာက မရှိတာ၊ ဂဏ္ဌဆိုတာက အနှောင်အဖွဲ့၊ အထုံးအဖွဲ့။ နိဂဏ္ဌ= တို့မှာဘာ နှောင်ကြိုးမှ မရှိဘူး၊ 'နှောင်ကြိုးမဲ့' လို့ သူ့ကိုယ်သူကြေညာတဲ့ ပုဂ္ဂိုလ်မျိုး၊ ကိလေသာဆိုတဲ့ အနှောင်အဖွဲ့တွေ တို့ကတော့ ကင်းတယ်၊ လောဘဆိုတာ တို့မှာမရှိဘူးလို့ဆိုပြီးတော့ အဲဒီ နာဋပုတ္တ ဆိုတဲ့ ဆရာကြီးကလည်းပဲ သူကနိဂဏ္ဌဂိုဏ်းကြီးကို တည်ထောင်ပြီးတော့နေတယ်။ လောဘကို ချိုးနှိမ်တဲ့အနေနဲ့ သူတို့ပိုင်ဆိုင်တာ ဘာပစ္စည်းမှ မရှိဘူးဆိုပြီး ဝတ်လစ်စလစ်နေကြတာ၊ အဝတ်တောင်မရှိဘူး။ ဒီကနေ့တော့ သူတို့ကို 'ဂျိန်း' လို့ခေါ်တယ်။

အိန္ဒိယနိုင်ငံမှာ ဒီဘာသာ ကျန်နေသေးတယ်။ 'ဂျိန်း'ဆိုတဲ့ စကားလုံးက 'ဂျိန' ဆိုတဲ့စကားကလာတာ။ ပါဠိလိုကျတော့ 'ဇိန' ပေါ့၊ ဒီက ဗုဒ္ဓဘာသာတွေသိကြတာကတော့ 'ဇိန' ဆိုတာ ဘုရားပေါ့၊ ငါးမာရ်အောင်မြင် ဘုရားရှင်ပေါ့၊ အဲဒီက သူတို့ အသံထွက်နဲ့ဆိုရင်'ဂျိန'၊ 'ဂျိန' ကနေပြီး သူတို့ရဲ့ နောက်ပါ

http://www.dhammadownload.com



တပည့်တွေကိုကျတော့ 'ဂျေန'၊ 'န' ကအသံဖျောက်လိုက်တော့ ဂျိန်းလို့ အသံဖြစ်သွားတယ်။ အဲဒီတော့ အိန္ဒိယနိုင်ငံမှာ ဂျိန်းဘုရားကျောင်းတွေ အများကြီးရှိတယ်၊ ဒီဘာသာက ယနေ့အထိအောင် အိန္ဒိယနိုင်ငံမှာ ရှိနေသေးတယ်၊ အဲဒီဆရာကြီးကလည်းပဲ သူ့ရဲ့ဘာသာဝါဒတွေကို မဂဓတိုင်းတစ်ခွင်မှာ ဟောပြောပြီးတော့ တပည့် ပရိသတ်တွေနဲ့ နေတယ်။ သူကလည်းပဲ လူကြိုက်တော်တော်များတဲ့ ပုဂ္ဂိုလ်တစ်ဦးပဲ။

နောက်တစ်ဦး ဆဋ္ဌမပုဂ္ဂိုလ်ကတော့ သဉ္စယ ဗေလဋ္ဌပုတ္တ ဖြစ်တယ်။ သူ့နာမည်ကတော့ သဉ္စယပဲ၊ သူ့ရဲ့အဖေ၊ ဒါမှမဟုတ် ဆရာက ဗေလဋ္ဌ၊ ဒါ့ကြောင့်မို့လို့ ဗေလဋ္ဌရဲ့ သားတပည့်၊ သူကတော့ ပရိဗိုဇ်လို့ ခေါ်တဲ့ ပုဂ္ဂိုလ်မျိုး ဖြစ်တယ်။ ပရိဗိုဇ် ဆိုတာက ပရိဗ္ဗာဇက ဆိုတဲ့ ပါဠိုကပြောင်းလာတာ၊ "ပရိသမန္တတော ဝဇတီတိပရိဗ္ဗာဇကော" လို့ဆိုတဲ့အတိုင်း တစ်နေရာတည်းမှာမနေဘဲ နေရာအနှံ့လှည့်လည်နေပြီး အယူဝါဒရေးရာတွေကို ငြင်းခုံ ဟောပြောနေတဲ့သူတွေ ဖြစ်တယ်။ မြန်မာပြည်မှာ တစ်ခေတ်တုန်းက အရပ်ထဲမှာ အဘိဓမ္မာစကားပြောပြီး ငြင်းခုံကြတာတွေ ပေါ်ခဲ့ဖူးတယ်၊ အလှူမင်္ဂလာပ်တွေ လိုက်ပြီးတော့ အဘိဓမ္မာစကားတွေပြောပြီး ငြင်းကြတယ်၊ ခုံကြတယ်။ ဒါကြောင့်မို့လို့

http://www.dhammadownload.com



''သောမနဿသဟဂုတ်၊ လက်ဖက်သုပ်၊ ကြက်သွန်သုပ် အကုန်တုတ်''လို့ အဆိုတောင် ရှိသေးတယ်။

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန်တို့ဟာဗုဒ္ဓသာသနာနှင့် မတွေ့ခင်က အဲဒီ အယူဝါဒတွေကို လှည့်လည်ငြင်းခုံပြောကြားနေတဲ့ သဉ္စယ၏တပည့်ဖြစ်ခဲ့ကြဖူးတယ်။ အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန်တို့ဟာ လူဝတ်ကြောင်ဘဝတုန်းက ပွဲကြည့်ပြီး ပျော်ပါး ရယ်မောနေခဲ့ကြတယ်။ တစ်နေ့မှာတော့ပွဲကြည့်ရင်း စဉ်းစားမိကြတယ်၊ တို့ လက်ခုပ်တီးလိုက်၊ ဆုပေးလိုက်နဲ့ဒီလိုပျော်ပါး ရယ်မောပြီး အချိန်ကုန်နေလို့တော့ အကျိုးရှိမှာ မဟုတ်ဘူး။ ဒီလူတွေအားလုံးနောင် နှစ်၁၀၀အတွင်းမှာ အကုန်သေကြမှာပဲ။ တို့တစ်တွေသေရဦးမယ်ဆိုတဲ့ အတွေးကလေးဝင်လာတော့ ဒီလိုနေလို့ မဖြစ်ဘူး။ မသေတဲ့တရား ရှာရမယ်ဟုစဉ်းစားပြီး လူ့ဘောင်ကိုစွန့်ခွာ၍ ထွက်လာခဲ့ရာသဉ္စယဗေလဋ္ဌပုတ္တ ဆရာကြီးနှင့် အရင်ဆုံးတွေ့တာပေါ့၊ သူ့တပည့်အဖြစ်ခံယူကာ သူ့ရဲ့အယူဝါဒတွေကို သင်ယူခဲ့ကြတယ်။ နောက်ပိုင်းမှ အရှင်အဿဇိနဲ့ တွေ့တဲ့အခါသစ္စာလေးပါးတရား အတိုချုပ်ကို နာကြားခွင့်ရရာမှနှစ်သက်သဘောကျပြီး ပရိဗိုဇ် ဘာသာမှ ဗုဒ္ဓဘာသာကို ကူးပြောင်းခဲ့ကြတယ်။

http://www.dhammadownload.com



အဲဒီ သဉ္စယဗေလဋ္ဌပုတ္တ ဆိုတဲ့ ဆရာကြီးက လည်း သူ့အယူဝါဒတွေကို ဟောပြောပြီးတော့ မဂဓတိုင်း တစ်ခွင်မှာ နာမည်ကြီးနေတယ်။

တို့ တရားချစ်ခင် သူတော်စင် ပရိသတ်တို့ ဒီပုဂ္ဂိုလ်ကြီးတွေရဲ့ တရားကို နည်းနည်းလောက် နာကြည့် ကြရအောင်။ အဲဒီခေတ်က သူတို့ ဘာတရားတွေများ ဟောခဲ့ကြသလဲ -

## ပူရဏကဿပ ဝါဒ

ပူရဏကဿပဆိုတဲ့ ဆရာကြီးက ဘာတွေ ဟောသလဲ၊ သူဟောတဲ့တရားတွေတော့ မြောက်များစွာ ရှိနိုင်တယ်၊ ဒါပေမဲ့ သူ့ရဲ့ Philosophy အကျဉ်းချုပ်ကို သာမညဖလသုတ်မှာ အဇာတသတ်မင်းကြီးက ဘုရား ကို လျှောက်ထားတဲ့အကြောင်း ပိဋကတ်တော်မှာ မှတ်တမ်းတင်ထားတာ ပါတယ်။ နောက် အင်္ဂုတ္တရ နိကာယ်မှာလည်း သူ့ရဲ့တရားအချို့ကို မှတ်တမ်းတင် ထားတာရှိတယ်၊ များများစားစားတော့ မရှိပါဘူး။ သူ့ရဲ့ ဝါဒက အကိရိယဝါဒ၊ ကံကို ငြင်းပယ်တဲ့ဝါဒ ဖြစ်တယ်။

အခု ဗုဒ္ဓဘာသာဝင်သူတော်စင်တွေက ကု သိုလ်ကံ၊ အကုသိုလ်ကံဆိုတာကို လက်ခံကြတယ် မဟုတ်လား။အေး-ကုသိုလ်ကံဆိုတာ ရှိတယ်။အကုသိုလ်

http://www.dhammadownload.com



ကံဆိုတာ ရှိတယ်။ ထိုကုသိုလ်ကံ၊ အကုသိုလ်ကံရဲ့ အကျိုးတရားဆိုတာလည်း ရှိတယ်လို့ တို့ဗုဒ္ဓဘာသာဝင် တွေကျတော့ ကံ၊ ကံ၏အကျိုးကို ယုံကြည်လက်ခံ ခြင်းလို့ဆိုတဲ့ ကမ္မဿကတာ သမ္မာဒိဋ္ဌိ ရှိကြတယ်။

**“ကလျာဏကာရီ ကလျာဏံ၊ ပါပကာရီ စ ပါပကံ။ ယာဒိသံ ဝပတေ ဗီဇံ၊ တာဒိသံ ဟရတေ ဖလံ။”**

ဒီအစေ့စိုက်ရင် ဒီအပင် ပေါက်တယ်၊ အချို စေ့စိုက်ရင် အချိုပင် ပေါက်မယ်၊ အချိုသီး သီးမယ်။ အခါးစေ့ စိုက်ရင် အခါးပင် ပေါက်မယ်၊ အခါးသီး သီးမယ်ဆိုတဲ့သဘာဝအတိုင်း ကောင်းတာ လုပ်ရင် ကောင်းကျိုးရမယ်။ မကောင်းတာ လုပ်ရင် မကောင်း ကျိုးရမယ်ဆိုတဲ့ ကံ ကံ၏ အကျိုးကို လက်ခံယုံ ကြည်တာ၊ မှန်ကန်တဲ့အမြင်အဖြစ် ကမ္မဿကတာ သမ္မာဒိဋ္ဌိကို ဘုရားအဆူဆူ ဟောတော်မူခဲ့တယ်။

**သဗ္ဗပါပဿ အကရဏံ၊ ကုသလဿ ဉပသမ္ပဒါ။ သစိတ္တပရိယောဒပနံ၊ တေံ ဗုဒ္ဓါန သာသန”။**

ဆိုပြီးတော့ ဘုရား အဆူဆူက “အကုသိုလ် ဆိုတာ မလုပ်ကြနဲ့၊ ကုသိုလ်မှန်သမျှ ပြည့်စုံအောင် လုပ်ကြ”ဆိုတာကို ဟောတယ်။ ဒါဘုရားတိုင်း ဟောတဲ့ တရားဖြစ်တယ်။

http://www.dhammadownload.com



အဲဒါနဲ့ဆန့်ကျင်ပြီးတော့ ပူရဏကဿပက ဘာတွေပြောတုံး ဆိုရင် "နတ္ထိ ပါပံ၊ နတ္ထိ ပါပဿ အာဂမော။ နတ္ထိ ပုညံ၊ နတ္ထိ ပုညဿ အာဂမော" အကုသိုလ်ဆိုတာလုပ်လို့မရပါဘူးတဲ့။ အကုသိုလ်ဆိုတာ မရှိဘူး။ ကောင်းမှုဆိုတာလည်း မရှိဘူး၊ မကောင်းမှု ဆိုတာလည်း မရှိဘူး။ ကောင်းမှု၊ မကောင်းမှုတို့ရဲ့ အကျိုးတရားလည်း မရှိဘူး။ ကောင်းမှု လုပ်ရင်လည်း သူ့ရဲ့အကျိုးတရားဆိုတာလည်းရလာမှာ မဟုတ်ဘူးတဲ့။ ဒီလိုဆိုတော့ သူ့ဝါဒက လူမိုက်ကို အားပေးတဲ့ဝါဒ ဖြစ်နေတယ်။

သူက ဘယ်ထိအောင် ပြောထားတုံးဆိုရင် မင်း တတ်နိုင်လို့ရှိရင် သတ္တဝါတွေ အသက် သတ်ချင်သလောက်သတ်၊ သူများပစ္စည်းတွေ မတရား ယူချင်သလောက်ယူ၊ သူတစ်ပါး သားမယားကို ပြစ်မှားချင်သလောက်ပြစ်မှား၊ အဲဒီလုပ်ရပ်တွေကြောင့် မင်း ဘာမှ အပြစ်မခံရဘူးလို့ ပြောတယ်။

အပြစ် ခံရတယ်၊ အပြစ် ရှိတယ်ဆိုတာ လက်တွေ့မှာပဲ အားလုံး သိနေကြတာပဲ၊ လူ့လောက ဥပဒေတောင်မှပဲ လူတစ်ယောက်ရဲ့ အသက်ကို သတ်မိတယ် ဆိုရင် ထိုပုဂ္ဂိုလ်ဟာ သေစား သေစေဆိုတဲ့ (capital punishment) ခံရတာပဲ မဟုတ်လား၊

http://www.dhammadownload.com


လောကကြီးရဲ့ အပြစ်ဒဏ်နဲ့ပဲကြည့်ကြည့်၊ လူ့လောက ဥပဒေနဲ့ပဲကြည့်ကြည့် အပြစ်လုပ်မိရင် ဥပဒေအရ ထိုက်သင့်တဲ့ အပြစ်ဒဏ်ကို ခံကြရတယ်။ သူက မခံရဘူး၊အပြစ်ဆိုတာ မရှိဘူးဆိုတော့ လက်တွေ့နဲ့ ကိုက်ညီမှု ရှိပါ့မလား။ ဒါပေမဲ့ သူက အဲဒီအတိုင်းဟောတယ်။

မိမိတို့ကြိုက်တဲ့ အကုသိုလ်တွေ လုပ်ချင်သလောက်လုပ်တဲ့၊ **ကရောတော န ကရီယတိ ပါပံ**= အကုသိုလ်ဆိုတာ လုပ်လို့မရပါဘူး၊ လုပ်လို့ကို မရဘူးတဲ့။ လူတွေက လုပ်လို့ရတယ် ထင်နေတာ၊ ဘာဖြစ်လို့ လုပ်လို့မရသလဲဆိုရင် **နတ္ထိ ပါပံ**= အကုသိုလ်ဆိုတာရှိမှ မရှိတာတဲ့။ လုပ် မဖြစ်ဘူးလို့ပြောတာကို **အကိရိယ (non-action)** လို့ခေါ်တယ်။ ကောင်းတာဆိုတာလည်း လုပ်လို့မရဘူး။ မကောင်းတာ ဆိုတာလည်း လုပ်လို့မရဘူး။

ငါးပါးသီလနှင့်ပတ်သက်ပြီး အကုသိုလ်မှန်သမျှ လုပ်ချင်သလောက် လုပ်၊ ထိုအကုသိုလ်ဆိုတာ မရှိဘူး၊ အကုသိုလ်ရဲ့အကျိုးတရားလည်း ဖြစ်မလာဘူးလို့ ဟောထားတယ်။ လက်တွေ့နဲ့မကိုက်ညီတဲ့ တရားကို ဟောတော့လူမိုက်တွေကတော့ သဘောကျတာပေါ့။ တကယ်တမ်းလက်တွေ့မှာ ကြည့်ရင် မှန်သလားဆိုတော့ မမှန်ဘူး။ ကိုယ်က သူတစ်ပါးအသက်ကို သတ်ရင် ကိုယ့်ပြန်

http://www.dhammadownload.com


အသတ်ခံရတယ်။ သူတစ်ပါးပစ္စည်းခိုးရင် သူတစ်ပါး သား၊ မယားပြစ်မှားရင် အပြစ်ပေးခံရမယ်။ လိမ်ပြော ရင် လူတကာက မယုံကြည်ကြဘဲ၊ တန်ပြန်အပြုခံရတဲ့ reaction ဆိုတာ လာတာပါပဲ။ အဲဒီလို လက်တွေ့ သဘာဝနဲ့ မကိုက်ညီတဲ့တရားတွေကို သူကဟောတယ်၊

သူပြောပုံက တတ်နိုင်လို့ လူသတ်လက်နက် စက်ကြီး တီထွင်ပြီး ကမ္ဘာမြေပြင်ပေါ်မှာရှိတဲ့ လူသား အားလုံးကိုသတ်ပြီး အရိုးပုံ အသားပုံ ပုံထားရင်တောင်မှ မင်းမှာပါဏာတိပါတ အကုသိုလ်ကံ မဖြစ်ပါဘူးတဲ့။ အဲဒီလိုခံယူထားကြတော့ သူ့ရဲ့ ဝါဒက ဘယ်လောက် ကြောက်စရာ ကောင်းလဲ။ နိဗ္ဗာန်ကို မပြောပါနဲ့၊ ကောင်းရာသုဂတိဘုံတောင် ရောက်ဖို့မလွယ်ဘူး။ အဲဒါ တင်မကဘူး။ သူပြောတဲ့အတိုင်းလုပ်ရင် ကမ္ဘာကြီးလည်း မငြိမ်းချမ်းနိုင်ပါဘူး။

အရပ်ထဲမှာ သူတစ်ပါးအသက်ကိုသတ်သူ၊ သူ တစ်ပါးပစ္စည်းခိုးသူတွေ၊ သူတစ်ပါး သားမယား စော် ကားတဲ့ပုဂ္ဂိုလ်တွေ၊ လိမ်ပြောတဲ့ ပုဂ္ဂိုလ်တွေ၊ ဒီလို ပုဂ္ဂိုလ်တွေ ရှိနေရင် အဲဒီအရပ်ဟာ ငြိမ်းအေးတဲ့အရပ် မဖြစ်နိုင်ဘူး။ ငြိမ်းချမ်းရေး ပျက်စီးနေတယ်ဆိုတာ လက်တွေ့ပဲ၊ လူတိုင်း လူတိုင်းဟာ ဘယ်သူပဲဖြစ်ဖြစ် ကိုယ့်အသက် နှမြောကြတာချည်းပဲ။

http://www.dhammadownload.com


မြတ်စွာဘုရား ဟောထားတာက ကိုယ်ချင်းစာ (အတ္တူပနာယိက) တရား ထားရမယ်။ လူတွေဟာ အသက်ရှင်ချင်ကြတယ်။ ပျော်ရွှင်မှုကို လိုလားကြတယ်။ ကျန်တဲ့လူတွေလည်း ဒီလိုပဲ အသက်ရှင်ချင်ကြတာချည်းပဲ။ ကိုယ့်အသက်တော့ ရှင်ချင်ပြီး၊ သူတစ်ပါးအသက်ကို သတ်ချင်ရင်တော့ ဘယ်လိုမှ သဘာဝမကျနိုင်ဘူး။ ဒါကြောင့်မို့ ပါဏာတိပါတကံ ဆိုတာမတရားတဲ့အမှုပဲ၊ သူတစ်ပါးကို ရပ်တည်ခွင့် ပေးရမယ်။ မိမိကအသက်ရှင် ရပ်တည်ချင်သလို သူတစ်ပါးကိုလည်း အသက်ရှင် ရပ်တည်ခွင့်ပေးမှ တရားမျှတတော့မှာပေါ့။ ကိုယ်ကတော့ နေချင်တယ်၊ သူများကိုတော့ သေစေဆိုတော့ ဟုတ်ပါ့မလား။ အဲဒီကတည်းက သူ့တရားဟာ "သမ" ညီညွတ်တဲ့တရား၊ မျှတ တဲ့တရားဖြစ်ကို မဖြစ်ဘူး။

လူတိုင်းက ကိုယ့်ပစ္စည်းကို ခိုးမှာ စိုးရိမ်ကြတာပဲ၊ လုံခြုံမှု ရှိချင်ကြတယ်။ သူ့ ဝါဒက သူတစ်ပါးပစ္စည်းခိုးလည်း ဘာမှမဖြစ်ဘူးလို့ ဟောထားလို့ လူမိုက်မြှောက်ပေးရာ မရောက်ပေဘူးလား။ လူတွေမှာ ကိုယ့်ပစ္စည်းအခိုးခံရတယ်ဆိုရင် ပျော်သလား၊ စိတ်ဆင်းရဲသလား၊ လူတွေ စိတ်ဆင်းရဲစေတဲ့ တရားဆိုတာ ကောင်းတဲ့တရား ဘယ်ဖြစ်မလဲ၊ လက်တွေ့နဲ့ ကြည့်ရင်

http://www.dhammadownload.com


သူ့တရားက ဟုတ်မှ မဟုတ်တာ။ ကမ္ဘာကြီးငြိမ်းချမ်းမှု၊ လူသားတွေ ငြိမ်းချမ်းမှု၊ လူတော် လူကောင်းများ ဖြစ်ထွန်းမှုဆိုတဲ့ အခြေအနေကောင်းတွေကို တစ်ခုမှ ဖန်တီးမပေးဘဲနဲ့ ဆိုးသွမ်းပြီးတော့ အင်မတန်မှ ကြောက်စရာကောင်းတဲ့ ကမ္ဘာကြီး တစ်ခု ဖန်တီးနေတာ ဖြစ်နေတယ်။

သူကပြောသေးတယ်၊ ကုသိုလ်ကောင်းမှု ရှိတယ် ထင်ပြီး မလုပ်နဲ့တဲ့။ လုပ်ရင်လည်း ကုသိုလ်ဆိုတာ လုံးဝ မရှိဘူးတဲ့။ "နတ္ထိ ပုညံ၊ နတ္ထိ ပုညဿ အာဂမော"= "ပုညံ–ကုသိုလ်ကောင်းမှုဆိုတာ၊ နတ္ထိ–လုံးဝမရှိဘူး"၊ လူတွေကရှိတယ် ထင်နေကြတာတဲ့။ "ပုညဿ အာဂမော"=ကုသိုလ်ကောင်းမှုရဲ့ အကျိုးတရားဆိုတာလည်း မရှိဘူးတဲ့။ မင်းတတ်နိုင်လို့ရှိရင် သီလဆောက်တည်မယ်၊ ဒါနကောင်းမှုတွေ လုပ်မယ်၊ ကိုယ့်စိတ်လေးကို စောင့်စည်းမယ်၊ မှန်ကန်တဲ့ စကားတွေပြောမယ်၊ အခု ဗုဒ္ဓဘာသာဝင် သူတော်စင်တွေဆိုရင် ဒါနကောင်းမှု လုပ်ကြတယ်၊ သီလဆောက်တည်ကြတယ်၊ ကမ္မဋ္ဌာန်း ဘာဝနာပွားများမှုဆိုတဲ့ ကိုယ့်စိတ်ကလေးကို ထိန်းသိမ်း စောင့်ရှောက်ကြတယ်၊ မှန်ကန်တဲ့စကား ပြောကြတယ် ဆိုတော့ ဒါတွေဟာ ကောင်းကျိုးချမ်းသာကို ဖြစ်စေ နိုင်တယ်လို့ မြတ်စွာဘုရားက ဟောထားတာ၊

http://www.dhammadownload.com



သူကတော့ အဲဒါတွေလုပ်သည့်အတွက်ကြောင့် ဘာ ကုသိုလ်မှ မရပါဘူးလို့ ပြောတယ်။

လက်တွေ့နဲ့ ကိုက်ညီလား စဉ်းစားကြည့်ရ အောင်၊ ဒါနကောင်းမှုလုပ်တဲ့အခါ ပေးလှူလိုက်တဲ့ ပုဂ္ဂိုလ်ကလည်းကြည်နူးတယ်၊ ရတဲ့ ပုဂ္ဂိုလ်ကလည်း ပျော်တယ်၊ ဥပမာ–ကိုယ့်အိမ် ဧည့်သည်လာလို့ ကော် ဖီလေးတစ်ခွက်တိုက်လိုက်တယ်ဆိုရင်လာတဲ့သူကလည်း သောက်ရလို့ကျေနပ်တယ်၊တိုက်ရတဲ့သူကလည်းဝါဝတ္တရား ကျေတယ်ဆိုပြီးတော့ ဝမ်းသာတယ်၊ ဒါနကောင်းမှုပြု လုပ်ခြင်းဖြင့်ပေးသူကလည်း ဝမ်းသာ၊ ရသူကလည်း ဝမ်းသာ။ ပေးလှူတဲ့ ပုဂ္ဂိုလ်၊ ရရှိတဲ့ပုဂ္ဂိုလ် (၂)ဦးလုံး အကျိုးရှိပြီး စိတ်ချမ်းသာမှု၊ ဝမ်းသာမှုတွေ ရရှိကြပြီး စိတ်ဓာတ်တွေ နူးညံ့လာကြတယ်။

**"အဒန္တဒမနံ ဒါနံ၊ဒါနံ သဗ္ဗတ္ထသာဓကံ။"**

ဒါနဆိုတာ ပေးကမ်းခြင်း၊ ပေးကမ်းခြင်းသည် အောင်မြင် ရာ၏ လို့တောင် အဆိုရှိသေးတယ်၊ ဘယ်ကိစ္စမဆို ပေးလိုက်–ကမ်းလိုက်ရင် မအောင်မြင်ပေဘူးလား။ ဒါဟာ ဒါန အကျိုးပဲ၊ ဒီထက် ထင်ရှားတဲ့အကျိုးပေး ဘယ်ရှိ မလဲ၊ နောက်ဘဝထားဦး၊ အခုလက်တွေ့ ပေးလိုက်– ကမ်းလိုက်ရင်အောင်မြင်သွားတာပဲ၊ ဒါကို ဒါန အကျိုး မရှိဘူးလို့ပြောရင် ဘယ်မှန်ပါ့မတုံး၊ တကယ့်လက်

http://www.dhammadownload.com



တွေ့နဲ့ အလွန်ဝေးနေတယ်။ နောက်ဘဝမှ ချမ်းသာတယ်၊ မချမ်းသာဘူးဆိုတာ နောက်မှ လာမယ့်အကျိုးကိုထားဦး၊ အခုလက်တွေ့ ပေးလှူသူ၊ အလှူခံရသူနှစ်ဦးနှစ်ဝစိတ်ချမ်းသာပြီး မေတ္တာ ပေါင်းကူးမိသွားတယ်။ ဒါဟာ အကျိုးပဲ။

ကဲ သီလဆောက်တည်လိုက်တယ်၊ သူများအသက်မသတ်ပါဘူး၊ သူတစ်ပါးဥစ္စာ မခိုးပါဘူးလို့၊ ကိုယ့်ရဲ့လက်နဲ့ ကိုယ့်ကြောင့် ဘယ်သူမှ အသက်မဆုံးရှုံးရဘူး၊ ကိုယ်က ဘယ်သူ့ကိုမှ အန္တရာယ်မပြုသည့် အတွက်ကြောင့် ကိုယ်အတွက်နဲ့ အသက်သေရတဲ့ ပုဂ္ဂိုလ်မရှိဘူးဆိုတော့ ကိုယ့်ကိုလည်း အန္တရာယ်ပြုမယ့်သူမရှိဘူး၊ ဒါဟာ အကျိုးပဲ၊ တိရစ္ဆာန်ကလေးတွေတောင်မှ ကိုယ့်အန္တရာယ်မပြုဘူး ဆိုရင် ခင်တယ်၊ ကိုယ့်ကိုအန္တရာယ်ပြုမယ့်သူဆိုရင် ခွေးကလေးတွေကအစ မျက်စောင်းထိုးကြည့်တာ၊ သိတယ်၊ အန္တရာယ်မပြုဘူးဆိုရင်ချစ်ခင်မှုကိုပြတယ်။ ဒါဟာ သီလဆောက်တည်တဲ့ အကျိုးတရားတွေပဲ။

လိမ်မပြောဘူးဆိုရင် ''ဟာ ဒီလူဟာဘယ်တော့မှ လိမ်ပြောလေ့မရှိဘူး''ဆိုပြီး သူ့စကားကိုအားလုံးကအလေးအနက်ထားကြတယ်။ လိမ်တဲ့သူဆိုရင် နောင်ဘဝရောက်မှ ငရဲကျမှာ မဟုတ်ဘူး။ ဒီဘဝ

http://www.dhammadownload.com



တွင်ပင် "ဒီလူက လူလိမ်ကြီးပဲ" ဆိုပြီး သူ့စကားကို ဘယ်သူမှ လက်မခံဘူး၊ အပေါင်းအသင်း မလုပ်ဘူး၊ ယုံကြည်မှုမရှိဘူး။ အဲဒါတွေဟာ ရရှိလာတဲ့ အကျိုးတရားတွေပဲ။ သီလ ဆောက်တည်ခြင်းဖြင့် ရရှိမည့် အကျိုးတရားတွေကို အဝေးကြီးမှာ ကြည့်စရာ မလိုဘူး။ ပစ္စုပ္ပန်မှာ ရနိုင်တဲ့အကျိုးတွေတင် အများကြီး ရှိတယ်၊ တမလွန်မှာ ရနိုင်တဲ့အကျိုးလည်းရှိတယ်။

မြတ်စွာဘုရားက "သီဟ သုတ္တန်"မှာ ဒါနရဲ့ အကျိုးကို ပစ္စုပ္ပန်မှာရနိုင်တဲ့အကျိုး၊ တမလွန်မှာ ရနိုင်တဲ့ အကျိုးဆိုပြီး ခွဲဟောထားတာ ရှိတယ်။ ဒါနရဲ့ ပစ္စုပ္ပန်မှာရနိုင်တဲ့အကျိုးတွေက လူချစ်လူခင် ပေါများမယ်။ မှန်တာပေါ့၊ လှူတဲ့သူဟာ လူချစ်လူခင် များတာပေါ့၊ "ဩော် လှူဖော်တန်းဖော်ရတယ်၊ ပေးဖော်ကမ်းဖော် ရတယ်" ဆိုပြီး သူ့ဆီကရတဲ့ ပုဂ္ဂိုလ်က သူ့ကို ခင်နေကြတာပေါ့။ စားရမဲ့သောက်ရမဲ့ ဖြစ်နေတဲ့ ခွေးလေးတွေ တိရစ္ဆာန်လေးတွေ အစာ ပေးကျွေးထားရင် မြင်တာနဲ့ အမြီးနန့်မှာပဲ၊ ကျွန်ပ်နေတာလေ၊ လူလည်းအတူတူပါပဲ၊ ကိုယ်က ကျွေးမွေးစောင့်ရှောက်နေတယ်ဆိုရင် ကိုယ့်ကို ခင်နေတာပဲ၊ ဒါတွေက တကယ့်လက်တွေ့ပဲ။

ဒါ့အပြင် အခြားသီလတွေမှာလည်း အကျိုးတွေရှိ နေတာပဲ။ မူးယစ်ဆေးဝါး သေရည်သေရက် မသောက်

http://www.dhammadownload.com



မစားဘူးလို့ဆိုရင် အတွေးအခေါ်တွေ မှန်ကန်မယ်၊ အများကကိုယ့်ကိုလေးစားတယ်၊ မူးယစ် သောက်စားတဲ့ သူတွေဆိုရင် "သူက အရက်သမား၊ သိပ် အပေါင်း အသင်းမလုပ်ကြနဲ့" ဆိုပြီး လူအများက အလေးမထား တာ၊ အဖက်မလုပ်တာကို ခံရမယ်။ အမှားမှား အယွင်း ယွင်းတွေလည်း ပြောဆို လုပ်ကိုင်လာမယ်။ အဲ့ဒါဟာ အပြစ်တွေပဲ။ နောင်ဘဝ ငရဲကျတာ၊ မကျတာ အသာထား၊ ဒီဘဝတင်ပဲ မကောင်းတဲ့ အကျိုးရနေ တယ်။ ငါးပါးသီလဆိုတာ လူ့လောကကြီးကို လက်တွေ့ အကျိုးပြုနေတဲ့ တရားတွေပဲ။

အဲဒါတွေကို ပူရဏကဿပက ဘာအကျိုးမှ မရှိဘူးလို့ ပြောခြင်းဟာ လက်တွေ့အကျိုးကို ငြင်းပယ် နေခြင်းဖြစ်တယ်။ ဒါ့ကြောင့် သူ့ရဲ့ အကိရိယဝါဒဟာ ဒီကနေ့ခေတ်မှာ ကြိုက်တဲ့သူ ရှိကောင်းရှိနိုင်ပေမယ့် အိန္ဒိယနိုင်ငံမှာတော့ သူ့ဒဿန ပျောက်ကွယ်သွားပါပြီ။ သို့သော်သူ့ရဲ့ အဆုံးအမဩဝါဒတွေက လူမိုက်တွေထဲ မှာတော့ ရှိနေမှာပေါ့။ ဘုရားအဆူဆူက ဟောတော် မူတဲ့ ကုသိုလ်၊ အကုသိုလ်နှင့် ၎င်းတို့ရဲ့ အကျိုးတရား ရှိတယ်ဆိုတာကို ဆန့်ကျင်ပြီး အကိရိယဝါဒကြီးကို ဖြန့်ဖြူးခဲ့တာ ပူရဏကဿပ ဖြစ်ပါတယ်။ အဲဒီ ဝါဒက ကံကိုငြင်းပယ်တော့ ကံရဲ့အကျိုးကို ငြင်းပယ်

http://www.dhammadownload.com



ရာလည်း ရောက်တယ်။ သူ့ဝါဒက လောကကို အကျိုးမပြုတဲ့ ဝါဒ၊ ပျက်စီးစေတဲ့ဝါဒ ဖြစ်တယ်လို့ လက်တွေမှာ ပြောလို့ရတယ်။

**မက္ခလိဂေါသာလ ဝါဒ**

မက္ခလိဂေါသာလ ကလည်း ဟောပြန်တယ်။ ဘာတွေဟောလဲဆိုတော့ အကြောင်းတရားကို ငြင်းပယ်တဲ့ ဝါဒကိုဟောတယ်။

**"နတ္ထိ ဟေတု နတ္ထိပစ္စယော သတ္တာနံ သံကိလေသာယ၊**
**အဟေတူ အပစ္စယာ သတ္တာ သံကိလိဿန္တိ။**
**နတ္ထိ ဟေတု နတ္ထိပစ္စယော သတ္တာနံ ဝိသုဒ္ဓိယာ၊**
**အဟေတူ အပစ္စယာ သတ္တာ ဝိသုဇ္ဈန္တိ။"**

သူက သတ္တဝါတွေ ညစ်နွမ်းပြီး ဒုက္ခရောက်ကြတာ ဘာအကြောင်းမှ မရှိဘူး၊ သတ္တဝါတွေ စင်ကြယ်၊ ချမ်းသာကြတာလည်း ဘာအကြောင်းတရားမှ မရှိဘူး။ သူတို့ဘာသာဖြစ်ချင်လို့ ဖြစ်တာလို့ အကြောင်းကို ငြင်းပယ်တဲ့ ဝါဒကိုဟောတယ်၊

ဒီလို ဟောတော့ နိဗ္ဗာန်ရဖို့ ဘယ်သူမှ ကြိုးစားကြမှာ မဟုတ်ဘူး။ ဘာဖြစ်လို့လဲဆိုရင် သူက ဘာမှ လုပ်လို့မရဘူးလို့ ပြောတဲ့သူကိုး။ သူက အကြောင်းတရားကိုမရှိဘူးလို့ဟောတယ်။ လောကမှာ အကြောင်း

http://www.dhammadownload.com



တရားရှိတယ်ဆိုတာ အလွန်ထင်ရှားတယ်။ ဥပမာ– သရက်စေ့ကနေသရက်ပင်လေးပေါက်လာတာအကြောင်း ရှိတာပဲ၊ သရက်စေ့ကို ဒီအတိုင်းထားရင် အပင် မပေါက်နိုင်။ မြေနဲ့ရေပေါင်းမှ အပင်ပေါက်နိုင်တယ်။ ဒီလို အပင်ပေါက်လာတာဟာ မြေနဲ့ရေဟာအကြောင်းတရား တွေပဲ။ လောကမှာ အကြောင်းတရားနှင့် အကျိုးတရား အမြဲတမ်းရှိတယ်။

ဆိုပါစို့၊ လူမှာ မျက်စိလည်း ရှိတယ်၊ မြင်စရာ အဆင်းအာရုံတွေလည်း ရှိတယ်။ အဆင်းအာရုံနဲ့ မြင်တဲ့ မျက်စိ၊ ဆုံမိတဲ့အခါ မြင်သိစိတ်ကလေး ပေါ်လာမယ်။ အဲ့ဒီမှာမျက်စိကလည်း အကြောင်းတစ်ခု၊ မြင်စရာ အာရုံကလေးလည်း အကြောင်းတစ်ခု၊ မြင်သိစိတ်ကလေးမှာ အကြောင်းတရား နှစ်ခုရှိနေတယ်။ အခု အလင်းရောင် ရနေတာ ဘာ့ကြောင့်လဲဆိုရင် လျှပ်စစ်မီး ဖွင့်လိုက်လို့၊ ဒါလည်းအကြောင်းတရားပဲ။ လျှပ်စစ်တွေပြတ်တောက် သွားတာနဲ့ မှောင်သွားတာ၊ မီးမလင်းတာလည်း အကြောင်းတရားရှိတာဘဲ။ ဒါ့ကြောင့် အလင်းဟာ အကြောင်းရှိတယ်၊ အကြောင်းမရှိဘဲ မရနိုင်ဘူး။ အဲ့ဒါကို ထိုပုဂ္ဂိုလ်က လောကမှာ အကြောင်းတရားနှင့် အကျိုးတရားဆိုတာ ငြင်းပယ်ပြီးတော့ ဘာတွေ ဟော သလဲဆိုရင်–

http://www.dhammadownload.com



"နတ္ထိ အတ္တကာရေ"၊ကိုယ့်ဟာကိုယ် လုပ်လို့ ရတာ မရှိဘူး။ ဒါကတော့ တကယ့်လက်တွေ့ကို ငြင်းပယ်လိုက်တာပဲ။ ကိုယ့်ကိုယ်ကိုယ်ဘာမှလုပ်လို့ မရဘူးဆိုတော့၊ အတ္တကာရ မရှိဘူးဆိုတော့ လူတွေဟာ ကိုယ်သွားချင်တဲ့နေရာ ထသွားရင် မရောက်နိုင်ဘူးလား၊ ရောက်တာပဲ၊ အဲဒါ ကိုယ်လုပ်တာပဲ မဟုတ်လား။ ကိုယ်လုပ်လို့ရတာ ဘာလို့မရှိရမှာလဲ၊ ရှိတာပေါ့။

"နတ္ထိ ပရကာရေ"= သူတစ်ပါးလုပ်ပေးလို့လည်း မရဘူးတဲ့၊ လောကမှာ သူတစ်ပါးလုပ်ပေးလို့ ကြီးပွားတိုးတက်သွားတာတွေ၊ မိဘတွေက သားသမီးတွေကို ပြုစုထောက်ပံ့ပေးလို့ ကြီးပွားတိုးတက်တာတွေ ရှိတယ်၊ ဒါကို သူကငြင်းပယ်ပြီး နတ္ထိ ပရ ကာရေ= သူတစ်ပါး လုပ်လို့လည်း မရဘူးလို့ ဟောတယ်။

"နတ္ထိ ပုရိသကာရေ၊ နတ္ထိ ဝီရိယံ"။ ဝီရိယရဲ့ အကျိုးမခံစားရဘူးတဲ့။ လူတွေရဲ့ လုံ့လဝီရိယကို အသိအမှတ်မပြုဘူး။ လက်တွေ့နဲ့ လုံးဝ မကိုက်ညီဘူး။ လက်တွေမှာ ထမင်းစားချင်ရင်ကိုယ့်ဘာသာဆိုင်သွားပြီး ဝယ်စား၊ ရတယ်။ သို့မဟုတ် ကိုယ့်ဘာသာ ချက်စားရင် တကယ်စားရမယ်၊ ဒါ ဝီရိယရဲ့ အကျိုးပဲ။ ထမင်းက သူ့ဘာသာ ပါးစပ်ထဲ ဝင်မလာဘူး။ ဒါ ကိုယ့်ရဲ့ လုံ့လအားထုတ်မှုလေးတွေ ရှိလို့ပါ။ ကျောင်းသူ ကျောင်းသား

http://www.dhammadownload.com



တွေဆိုရင်စာကျက်မှစာရမယ်။ စာရမှ စာမေးပွဲ အောင်မယ်၊ စာမေးပွဲ အောင်တယ်ဆိုတာ လုံ့လ၊ ဝီရိယရဲ့ အကျိုးတရားတွေပဲ။ မက္ခလိဂေါသာလရဲ့ဝါဒကတော့ လုံ့လဝီရိယရဲ့ အကျိုးကိုလုံးဝအသိအမှတ်မပြုပါဘူးတဲ့။

သတ္တဝါအားလုံးမှာ ကံကြမ္မာက ပုံသေ သတ်မှတ်ထားပြီးသား ဖြစ်တယ်တဲ့၊ ဒါက သူ့ရဲ့ နိယတိဝါဒ ဖြစ်တယ်။ လူဖြစ်ရမယ်ဆိုရင်လည်း လူဖြစ်တယ်၊ ခွေးဖြစ်ရမယ်ဆိုလည်း ခွေးဖြစ်တယ်တဲ့။ ဘာအပြောင်းအလဲမှ လုပ်ချင်လို့မရဘူးတဲ့၊ လူ့စွမ်းအားလုံးဝမရှိဘူးတဲ့။ သတိစွမ်းအား၊ ဉာဏစွမ်းအားတွေ ဘာတစ်ခုမှ မရှိဘူးတဲ့။ လူ့စွမ်းအား လုံးဝမရှိဘူးတဲ့။ သတိစွမ်းအား၊ ဉာဏစွမ်းအားတွေ ဘာတစ်ခုမှ မရှိဘူးတဲ့။

လက်တွေ့မှာ လူ့စွမ်းအားတွေ အများကြီး ရှိတာပဲ၊ "ယောကျ်ားတံခွန်၊ လူရည်ချွန်က၊ မိုးစွန်တမွတ်၊ ကြယ်ကို ဆွတ်လည်း၊ မလွတ်စတမ်း၊ ရမြဲလမ်း" ဆိုတာကို သူက ငြင်းပယ်လိုက်တာ။ လုံ့လ ဝီရိယ ဆိုတာတွေရဲ့ စွမ်းအားတွေကို သူက တစ်ခုမှ အသိအမှတ်မပြုဘူး။ အဲဒီတော့ ဒီဝါဒက တိုးတက်မှုကို ဟန့်တား ပယ်ဖျက်တဲ့ ဝါဒဖြစ်နေတယ်။ ပုံသေသတ်မှတ်ထားတော့ လူလောက လူသားတွေဟာ စီးပွားရေးတို့၊ ဓမ္မရေးတို့ တိုးတက်စရာ အကြောင်းမရှိဘူး။

http://www.dhammadownload.com



ဘာမှ မလုပ်ဘူးဆိုရင် ဒီလောကကြီးဟာ ပျက်စီးခြင်းမက ပျက်စီးသွားနိုင်တာပေါ့၊ ဒါဟာလဲပဲ နိဗ္ဗာန်တံခါးကြီးကို ဆို့ပိတ်ထားတဲ့ အယူဝါဒဆိုးကြီးတစ်ခုပဲ ဖြစ်နေတယ်။

သူကဘယ်လောက်ထိအောင် ပြောသလဲဆိုရင် လူတွေဟာ "နိယတိ" ပုံသေသတ်မှတ်ထားတဲ့အတိုင်း၊ "သင်္ဂတိ"=ပေါင်းဆုံလာတဲ့အခါမှာ၊ "ဘာဝ" =ထင်ရှားပေါ်လာတာတဲ့။ဘာမှလုပ်လို့မရဘူးတဲ့။ "ဒေါဏမိတေ သုခ ဒုက္ခေ"= လောကမှာ ချမ်းသာ၊ ဆင်းရဲဆိုတာ အကန့်အသတ်ရှိတယ်။ လူတိုင်းမှာ ချမ်းသာ၊ ဆင်းရဲဆိုတာ အကန့်အသတ်ရှိတယ်။ လူတိုင်းမှာ သံသရာဆိုတာလဲ အကန့်အသတ်ရှိပြီးသားတဲ့။

"နတ္ထိ ဟာယန ဝဍ္ဎနေ"=အတိုးအဆုတ် လုပ်လို့မရဘူး။ "နတ္ထိ ဥက္ကံသာဝကံသေ"= အနိမ့်အမြင့် လုပ်လို့မရ။ ပုံသေကားချပ်အတိုင်းပဲ ရှိရမယ်။ ပညာရှိပဲဖြစ်ဖြစ်၊ လူမိုက်ပဲဖြစ်ဖြစ် မဟာကပ် ရှစ်သန်းလေးသောင်းလို့ခေါ်တဲ့ အလွန်ရှည်ကြာတဲ့ အပိုင်းအခြားကြီး တစ်ခုပြည့်တဲ့အခါ လူမိုက်ရော ပညာရှိပါအားလုံးဟာ ဘဝကို အဆုံးသတ်ကြရမှာပဲတဲ့။

ဒီအပိုင်းအခြား မပြည့်ခင် ပညာရှိကလည်း ငါပညာရှိဆိုပြီး သံသရာကို တိုအောင်လုပ်လို့ မရဘူးတဲ့။

